


၂၀၂၁ ခုနှစ်၊ ကမ္ဘာလုံးဆိုင်ရာအရဗီဘာသာစကားနေ့အမှတ်တရ

## ကုရ်အာန်၊ ဟဒီးဆ် ရှုထောင့်မှ

# အရဗီစာပေ၏ထူးမြတ်မှု



မြန်မာပြန်ဆိုသူ

**မောင်လာနာ ဟာဖစ်ဇ် ဇွဖရ်အလီ(အလ်ကောင်ဆရီ)**

ကျောင်းဆရာ

အလ်အဲ့ဟ်စားန် အစ္စလာမ့်ပညာရေးစင်တာ၊ မြစ်ငယ်မြို့။



# အလ်ဟာဂျ်မောင်လာနာ မွတ်ဖ်သီ ကာရီ မိုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊ မဇ္ဇာဟေရီ) ၏ ရင်တွင်းစကား

بسم الله الرحمن الرحيم

الحمد لله على جميع النعم، والصلاة والسلام على سيدنا محمد ما جرى المداد بالقلم، وعلى آله وصحبه الذين شادوا الدين، وشرّف وكرّم.

## စာပေအပေါင်းကို ဦးဆောင်နေသော စာပေဘုရင်

အရဗီဘာသာစကား၊ အရဗီစာပေသည် စတင်ပေါ်ပေါက်လာချိန်မှ ယနေ့တိုင် ရာစုနှစ်ပေါင်းများစွာကို ကျော်ဖြတ်ခဲ့သော်လည်း မဟောင်းသွားဘဲ အမြဲသစ်လွင်ပြီး ဂုဏ်အင်တင့်တယ်စွာဖြင့် ခမ်းခမ်းနားနားရပ်တည်လျက်ရှိသော ဘာသာစကားတစ်ခုဖြစ်သည်။ စတင်ဖြစ်ပေါ်လာသည့် အချိန်မှစတင်ပြီး ယနေ့တိုင် မလျော့သော အနှစ်သာရများ၊ မှေးမှိန်ခြင်းကင်းသော ပုံရိပ်များနှင့် ဘာသာစကားအပေါင်းကို ဦးဆောင်ကာ စကားဘုရင်အဖြစ်ရပ်တည်နေပါသည်။

## အစ္စလာမ်သာသနာတော်မြတ်နှင့် အရဗီစာပေ

ဤမျှဂုဏ်ရည်တင့်တယ်လှသည့် အရဗီဘာသာစကားသည် ကျွန်ုပ်တို့ အစ္စလာမ်သာသနာတော်မြတ်၏ မူရင်းဘာသာစကားလည်း ဖြစ်နေပါသည်။

- ကျမ်းမြတ်ကုရ်အာန် ကျရောက်လာသည့် မူရင်းဘာသာစကား ...
- ချစ်နဗီ ﷺ အစဉ်ထာဝရသုံးစွဲခဲ့သည့် ဘာသာစကား၊ ဟဒီးဆ်တော်များ၏ မူရင်းဘာသာစကား ...
- အစ္စလာမ့် ဖေကဟ်ပညာရပ်၏ မူရင်း ဘာသာစကားလည်း ဖြစ်သည်။

အထက်ပါ သာသနာ့မဏ္ဍိုင်များအား အရဗီစကားဖြင့်သာ မှန်ကန်တိကျစွာ နားလည်နိုင်မည်ဖြစ်သည်။

**အရဗီစာပေ၊ ဘာသာစကား၏ သမိုင်းအကျဉ်း**

ထို့ကြောင့် ခေတ်အဆက်ဆက်မှ ပညာရှင်ကြီးများသည် မိမိတို့ တတ်စွမ်းနိုင်သရွေ့ အရဗီစာပေ၊ အရဗီဘာသာစကားကို ထိန်းသိမ်း စောင့်ရှောက်ခဲ့သည်။

အရဗီဘာသာစကား စတင်ခဲ့ချိန်နှင့် ပတ်သက်၍ အဆိုမျိုးမျိုး တွေ့ရှိရသည်။

- ဟဇရတ်အာဒမ် ﷺ လက်ထက်တော်ကတည်းက တည်ရှိခဲ့သည်ဟု ဆိုသူများလည်း ရှိသည်။
- အချို့က ကဟ်သွားန်၏ သားတော်များက စတင်သုံးစွဲခဲ့သည်ဟုလည်း ဆိုကြသည်။
- ကျော်ကြားဆုံးသော အဆိုတစ်ခုမှာ အိစ်မာအီးလ် ﷺ ၏ ခေတ်သမယမှ စတင်ခဲ့သည်ဟူ၍ဖြစ်သည်။

ဤသို့ဖြင့် အာရေဗျကျွန်းဆွယ်မှပုဂ္ဂိုလ်များသည် အရဗီစာပေ၊ ဘာသာစကားတို့အား အထူးသုံးစွဲပြီး ထိန်းသိမ်းခဲ့ကြသည်။ သမိုင်းစာမျက်နှာများအား ပြန်လှန်ကြည့်သော် .....

- ယီမင်နိုင်ငံမှ စဗအ် (ရှီဗာ)၏ သားနှစ်ဦးဖြစ်သော ကဟ်လားန်နှင့် ဟင်မ်ယရ်တို့မှ ပေါက်ဖွားလာသော ကဟ်သွားန်မျိုးနွယ်ဝင်တို့သည် ‘မအာရိဗ်’တံတိုင်းပြိုမကျမီအထိ အထူးထိန်းသိမ်းခဲ့သည်။
- ထိုမှတဆင့် အာရေဗျကျွန်းဆွယ်မှ အဒ်နားန်၏ သားစဉ်မြေးဆက်တို့သည် ကအ်ဗာကျောင်းတော်တည်ရှိရာ ရွှေရောင်နယ်မြေတွင်

အရဗီဘာသာစကားကို သုံးစွဲခဲ့ကြသည်။ ၎င်းတို့သည် အရဗီစာပေအား အနှစ်သာရရှိရှိနှင့် သုတ၊ ရသ၊ ကဗျာ၊ အလင်္ကာ၊ ဂုဏ်၊ တန်ဆာများနှင့် ဆင်မြန်းပြီး ကမ္ဘာ့အလယ် အခန့်ညားဆုံးပုံစံဖြင့် တင့်တယ်စေခဲ့ပါသည်။

ဤသို့ဖြင့် ခရစ်နှစ်(၅၇၀)ခုတွင် နှစ်ဘ၀သခင်ကျေးဇူးတော် ရှင်မုဟမ္မဒ် ﷺ ပွင့်ပေါ်တော်မူပြီးနောက် အရဗီစာပေ၊ ဘာသာစကား သည် ပြီးပြည့်စုံလှသည့် ဂုဏ်သိက္ခာများကို ပိုင်ဆိုင်ခဲ့ပါသည်။ တမန်တော်မြတ် ﷺ အပေါ် ကျရောက်တော်မူခဲ့သော ကျမ်းမြတ် ကုရ်အာန်သည် အရဗီဘာသာစကားဖြင့် ကျရောက်ခဲ့ခြင်း၊ တမန်တော်မြတ် ﷺ သည် ထာ၀ရ ဤဘာသာစကားကိုသာ အသုံးပြုခြင်းတို့ကြောင့် အရဗီဘာသာစကားသည် ရွှေပေါ်မြတင် ဖြစ်ခဲ့ရသည်။

နဗီကြီး ၀ဖားသ်ဖြစ်သွားချိန် ခလီဖွာဖြစ်ခဲ့သည့် အဗူဗကရ်ရ် ﵁ သခင်ကလည်း မိမိအုပ်ချုပ်ခဲ့သည့် (၂ နှစ်၊ ၃ လ)၊ အုမရ် ﵁ သခင် အုပ်ချုပ်ခဲ့သည့် (၁၀ နှစ်၊ ၆ လ)၊ အွတ်ဆ်မားန် ﵁ သခင်အုပ်ချုပ်ခဲ့ သည့် (၁၂နှစ်)၊ အလီ ﵁ သခင်အုပ်ချုပ်ခဲ့သည့် (၅)နှစ်၊ ဟစံ ﵁ သခင်အုပ်ချုပ် ခဲ့သည့် (၆ လ) စုစုပေါင်း (နှစ်၃၀)အတွင်းတွင်လည်း အားလုံးက အရဗီ ဘာသာစကားကိုသာ သုံးစွဲခဲ့သည်မှာ ထူးခြားမှု တစ်ရပ်ပင် မဟုတ်ပါလော....?

အိုမိုင်ယဟ်မင်းဆက်များ အုပ်ချုပ်ခဲ့သည့် (၉၁နှစ်)တာ ကာလ တစ်လျှောက်လုံးတွင်လည်း အရဗီဘာသာစကားသည် နန်းတွင်းသုံး၊ ရုံးသုံး ဘာသာစကားဖြစ်ခဲ့သည်။

အေမာမ်ကြီး(၄)ပါး ဖြစ်ကြသော အေမာမ်အဗူဟနီဖွာ၊ အေမာမ် မာလိက်၊ အေမာမ်ရှာဖေ့အီ၊ အေမာမ်အဟ်မဒ် ﵏ စသည့် ပညာရှင်ကြီး

များပြုစုခဲ့သမျှ မှီငြမ်းရသည့် ဖေကဟ်ကျမ်းကြီးများ၊ ဖေကဟ်သိပ္ပံ ကျမ်းကြီးများ၏ မူရင်းဘာသာစကားမှာ အရဗီဘာသာ စကားသာ ဖြစ်ခဲ့သည်။

အဗ္ဗာစီယဟ်မင်းဆက်များ အုပ်ချုပ်ခဲ့သည့် နှစ်ပေါင်း (၅၀၀) ကျော် အစတွင်မူ အရဗီဘာသာစကားသည် အားလုံးတို့၏ မျက်နှာသာ ပေးမှုများ၊ ကမကထပြုမှုများ ရရှိခဲ့သော်လည်း နောက်ပိုင်းခေတ်များတွင် တိုင်းရေးပြည်ရေးများ ရှုပ်ထွေးလာသည်ကတစ်ကြောင်း၊ ဟာရူးန်ရရှီးဒ် ဘုရင်ကြီး၊ မအ်မူးန်ဘုရင်ကြီးတို့ကဲ့သို့ အရဗီစကားကို အသဲစွဲအောင် ချစ်လွန်းလှသည့် ဘုရင်များ ရာဇပလ္လင်ပေါ် ရောက်မလာသည်က တစ်ကြောင်း၊ အရဗီစာပေထိန်းသိမ်းရေးတွင် အစကနဦးကဲ့သို့ မဟုတ် တော့ဘဲ အရဗီဘာသာစကားစစ်စစ်တွင် အဂျမီ 'အရဗီမဟုတ်သော အခြားဘာသာစကားများ' ရောထွေးလာခဲ့သည်။

ထိုအခြေအနေတွင် အေမာမ် မတ်စ်အူဒီ၊ အိဗ်နေ့ အဗ်ဒေ့ ရဗ်ဗေ့ဟီ၊ ဘဒီအွစ်ဇဇမားန် ဟမ်ဒါနီ၊ အေမာမ်မိုဘရ်ရဒ်၊ ဂျာဟိဇ္ဇ်၊ အိဗ်နေ့ ကိုသိုင်ဗဟ်၊ အဗူအလီ စသည့် ပညာရှင်များမှ မိမိတို့တတ်စွမ်းနိုင်သရွေ့ အရဗီစာပေအစစ်မှန်ကို ကျွန်ုပ်တို့ထံ လက်ဆင့်ကမ်းပေးခဲ့သည်။ အခြားတစ်ဖက်တွင် အဗူလ်အေ့သာဟိယဟ်၊ အဗူသမ်မားမ်၊ အိဗ်နေ့ ဖာရိသွ် စသည့်ပညာ့ရှင်တို့ကလည်း မိမိတို့၏ ကဗျာလင်္ကာများဖြင့် အရဗီစာပေအစစ်အမှန်ကို သစ္စာရှိစွာ ကမ်းလင့်ပေးခဲ့ကြသည်။ ဤ နေရာတွင် အလျင်းသင့်သော အမည်နာမများကိုသာ ဖော်ပြလိုက်ခြင်း ဖြစ်သည်။ အရဗီစာပေ ထိန်းသိမ်းရေးတွင် ဤပုဂ္ဂိုလ်များအပြင် ရွှေကလောင်နှင့် ကမ္ဘည်းထိုးထားထိုက်သော အခြား ကျေးဇူးရှင်ကြီး များလည်း ရှိနေပါသေးသည်။ فجزاهم الله عنا وعن الأمة أجمعين

ဤသို့ဖြင့် အင်ပါယာများ ခေါင်းစဉ်အမျိုးမျိုးဖြင့် ပြောင်းကာ အော်တိုမန်အင်ပါယာ စတင်ခဲ့သည်။ ၎င်းတို့ အုပ်ချုပ်ခဲ့သည့် နှစ်ပေါင်း (၆၀၀)ကျော်အတွင်း အရဗီစာပေ ထိန်းသိမ်းခြင်း သမိုင်းမှတ်တိုင်များ သည်လည်း မေ့မရနိုင်အောင်ပင် ရှိခဲ့ပါသည်။ သို့သော် အဆုံးပိုင်းတွင် အရဗီစာပေသည် အချို့သော ခေါင်းဆောင်တို့၏ ရက်စက်မှု၊ ဥပေက္ခာ ပြုမှု တို့ကို ခံခဲ့ရသည်။

စပိန်နိုင်ငံတွင် မွတ်စ်လင်မ်တို့ အုပ်ချုပ်ခဲ့သည့် နှစ်(၈၀၀) ကျော် သမိုင်းတွင်လည်း အရဗီစာပေသည်သာ အဓိက ဘာသာစကား ဖြစ်ခဲ့ သည်။ ထိုမှတဆင့် အာဖရိကတိုက်ရှိ နိုင်ငံပေါင်းများစွာတွင်လည်း အရဗီစာပေကိုသာ သုံးစွဲနေကြပါ သည်။

ခရစ်နှစ် (၁၂၇၀)ခုနှစ်ခန့်တွင် ပြင်သစ်နိုင်ငံမှ လူးဝိစ်နှင့် တပည့် တို့သည် အစ္စလာမ်နှင့် မွတ်စ်လင်မ်တို့ကို ပစ်မှတ်ထား တိုက်ခိုက် ခြင်းနှင့်အတူ အစ္စလာမ်သာသနာတော်၏ မူရင်းဘာသာ စကားဖြစ် သော အရဗီကိုပါ ပစ်မှတ်ထား တိုက်ခိုက်ခဲ့ကြသည်။ အရဗီ စာပေဖြင့် တည်ရှိနေသည့် မူရင်းအစ္စလာမ့်မူများဖြစ်သော ကျမ်းမြတ် ကုရ်အာန်၊ ဟဒီးဆ်တော်များ၊ ဖေကဟ်ကျမ်းများနှင့် မွတ်စ်လင်မ် ညီနောင်တို့အား ဝေးသွားစေရန် ကြိုးပမ်းမှုများပြုခဲ့ကြသည်။

၎င်းတို့အနက် အဖွဲ့တစ်ဖွဲ့သည် Ideological Attack (အတွေး ခေါ်ဆိုင်ရာ စစ်ဆင်ရေး)များ ပြုလုပ်နိုင်ရန် အရဗီစာပေကို ပါရဂူ မြောက် တမ်းကျွမ်းသည်အထိ သင်ယူကြပြီး အစ္စလာမ့်ကျမ်းဂန်များ တွင် အဆိပ်အတောက်များ ခပ်ရန်ကြိုးပမ်းခဲ့ကြသည်။

ဤသို့ဖြင့် (၁၈)ရာစုနှစ်တွင် The Orientalism (အရှေ့တိုင်း ဝါဒ)ဆိုသော ဝါဒဆိုးတစ်ရပ် မင်းမူလာခဲ့ရာ အစ္စလာမ်နှင့် မွတ်စ်လင်မ်

တို့အတွက် စာပေစစ်မျက်နှာပြင်တစ်ခု ထပ်တိုးလာခဲ့ရသည်။ သို့သော် ထိုခေတ်ရှိ ပညာရှင်ကြီးများသည် တာဝန်သိသိ သစ္စာရှိရှိဖြင့် ၎င်းတို့၏ အန္တရာယ်ရန်စွယ်အား အမြစ်လှန်ပစ်ခဲ့ကြသည်။ အီဂျစ်နိုင်ငံ အဇ်ဟာရ် တက္ကသိုလ်မှ သောကရှင်များ၊ အရပ်နိုင်ငံအသီးသီးမှ မွေးထုတ်ပေး လိုက်သည့် အခြားသော ပညာရှင်များ၊ အိန္ဒိယမြေမှ ဟာဇရသ် ရှားဟ် ဝလီယွလ္လာဟ် သခင်ကြီးနှင့် သား၊ တပည့်များ၊ ဒေယိုဗန်ဒ် ကျောင်းတော်မှ ဟာဇရသ် မော်လာနာ ကာစင်မ် သခင်နှင့် အဓိပတိ တပည့်များ၊ နဒ်ဝဟ်ကျောင်းတော်မှ အလ္လာဟ်မဟ် ရှိဗ်လီနုအ်မာနီ၊ အလ္လာမဟ် စိုင်ယစ်ဒ် ဆိုလိုင်မာန် (နဒ်ဝီ)နှင့် ဟာဇရသ်မော်လာနာ စိုင်ယစ်ဒ် အဗွလ်ဟာစနီသခင်နှင့် ဟာစနီ၊ ဟိုစိုင်နီမျိုးနွယ်ဝင်များမှ သမိုင်းတွင် မော်ကွန်းဝင် ကြိုးပမ်းမှုများ ပြုလုပ်ခဲ့ကြသည်။

အထက်ပါမီးတောက် ငြိမ်းပင်မငြိမ်းသေး အရဗီစာပေနှင့် ပတ်သက်ပြီး الأدب للأدب ليس للدين **"စာပေအနုပညာနဲ့ သာသနာနဲ့ ဘာမှမသက်ဆိုင်ဘူး"** ဆိုသော ဆေးဆိုးပန်းရိုက် အဆိုတစ်ရပ်ကို ဥရောပကျောင်းဆင်း ယဟူဒီ လက်ရိုက်တုတ် အရဗ်ပညာရှင်တစ်ချို့မှ တွင်တွင်ကျယ်ကျယ် ဖြန့်ချိလာခဲ့ပါသည်။ အရဗီဘာသာစကားအပေါ် ဤကဲ့သို့ သစ္စာဖောက်မှုအား လူတို့သတိမမူမိခင်အလျှင်ပင် ရှိုင်ခ်အလီ သွာန်သွာဝီ၊ ဒေါက်တာ ရအ်ဖသ် ဘာရှားနှင့် နဗီတမန် တော်မြတ် □ ၏ မျိုးနွယ်ဝင် အေမာမ် စိုင်ယစ်ဒ် အဗုလ်ဟာစံအလီ နဒ်ဝီ စသည့် ပညာရှင် များမှ စာပေးကျမ်းဂန်များ ရေးသားခြင်း၊ သင်ရိုးညွှန်းတမ်းများ ပြုစုခြင်း ဖြင့်တစ်နည်း၊ ဟောကြားချက်များဖြင့်တစ်ဖုံ အွမ္မသ်ထု တစ်ရပ်လုံးအား အသိပေးခြင်း၊ သတိပေးခြင်းများတာဝန်တို့ကို ကျေပွန်စွာ ထမ်းရွက် ခဲ့ကြသည်။

အဆုံးတွင် အရဗ်ပညာရှင်များ၊ အင်္ဂလိပ်မိနိုင်ငံများအနက် အိန္ဒိယ၊ ပါကစ္စတန်နိုင်ငံတို့မှ ကြီးမှူးကွပ်ကဲပြီး رابطة الأدب الإسلامي ဟူသော အဖွဲ့ကြီး တည်ထောင်ကာ အထက်ပါ ကြံစည်ချက်များကို သဲထဲရေသွန် ဘိအလား အချီးအနှီးဖြစ်သွား စေခဲ့သည်။

## အပြည်ပြည်ဆိုင်ရာ အရဗီဘာသာစကားနေ့

ဤသို့ဖြင့် (၁၉၅၄)ခုနှစ်တွင် ဆော်ဒီနိုင်ငံနှင့် မော်ရိုကို နှစ်နိုင်ငံတို့၏ အဆိုတင်သွင်းမှုကြောင့် (UNESCO) ယူနက်စ်ကိုမှ အဆင့်ဆင့်သုံးသပ်ပြီး (၁၉၇၃)ခုနှစ်မှစတင်ပြီး ကမ္ဘာ့ကုလသမဂ္ဂအဖွဲ့ တွင် ကမ္ဘာလုံးဆိုင်ရာ ဘာသာစကားအဖြစ် အသိအမှတ်ပြုခြင်း ခံခဲ့ရသည်။ (၂၀၁၂)ခုနှစ်မှ စတင်ပြီး اليوم العالمي للغة العربية "အပြည်ပြည်ဆိုင်ရာ အရဗီဘာသာစကားနေ့" ဟူ၍ ကျင်းပပြုလုပ်ခဲ့ပါ သည်။

## ယနေ့ခေတ် အရဗီစကားနှင့်အရဗ်တို့၏ အခြေအနေ

ယနေ့ခေတ်တွင် အရဗ်အစစ်များပင်လျှင် စစ်မှန်ပြီး ရသ မြောက်လှသည့် အရဗီဘာသာစကားဖြင့် ဝေးနေသည်မှာ ဝမ်းနည်း ဖွယ်ရာတစ်ရပ်ပင်။ ကုရ်အာန်၊ ဟဒီးဆ်တို့နှင့် ဝေးစေသည့် ဗန်းစကား တစ်ခုကို နှစ်သက်စွာ သုံးနှုန်းနေကြသည်မှာ အမြင်မတော် ဖြစ်နေ ပါသည်။ ဤသည် အစ္စလာမ့်ရန်သူများက စီမံထားသည့် ထောင်ချောက် တွင် မိနေကြခြင်းဖြစ်သည်။ ဤကြံစည်မှုဖြင့် ၎င်းတို့၏ ရည်ရွယ်ချက် မှာ အရဗ်လူမျိုးပင်ဖြစ်ပါစေ ကုရ်အာန်၊ ဟဒီးဆ်တော်နှင့် အစ္စလာမ့် ဖေကဟ်ကျမ်းများကို နားမလည်နိုင်စေရန် ဖြစ်သည်။

## အရဗီစကား၊စာပေတို့အား ထိန်းသိမ်းရန်တာဝန်မကင်းသူများ

အချုပ်ဆိုရလျှင် အရဗီဘာသာစကားအား ထိန်းသိမ်းခြင်း သည် အရဗ်တို့၏တာဝန်ပင်မဟုတ်။ မွတ်စ်လင်မ်တိုင်း၏ သာသနာ ပေး တာဝန်ဖြစ်ပါသည်။ ဤအရဗီဘာသာစကားသည် ကျွန်ုပ်တို့ သာသနာ၏ မူရင်းဘာသာစကားဖြစ်သည်။ သာသနာကို ဂဃနဏ ခရေစေ့တွင်းကျ နားလည်လိုလျှင် အရဗီစာပေ၊ ဘာသာ စကားကို လည်း ကျွမ်းကျင်ပိုင်နိုင်ရန် လိုအပ်သည်ပင် မဟုတ်ပါလော။.......

## အရဗီစကားကိုယ်စား သဝဏ်လွှာတစ်ခု

ကျွန်ုပ်တို့နိုင်ငံသူ၊ သားများအတွက် အရဗီစကားကိုယ်စား သဝဏ်လွှာတစ်ခုမှာ “သာသနာ၏ မူရင်းဘာသာစကား၊ ကုရ်အာန်၏ ဘာသာစကား၊ ကျွန်ုပ်တို့ချစ်လှစွာသော နဗီကြီး အမြတ်တနိုး သုံးစွဲ ခဲ့သည့် ဘာသာစကား၊ သမိုင်း တလျှောက် ထွန်းတောက်ခဲ့သည့် အေမာမ်ကြီးများ သုံးစွဲခဲ့သည့် ဘာသာစကား၊ ဂျန္နသ်သုခဘုံထဲတွင် ဂျန္နသီတို့ ပြောဆိုသုံးစွဲရမည့် ဘာသာစကား”သည် အရဗီဘာသာ စကားပင်ဖြစ်သည်။၊ ထို့ကြောင့်ပင် မွလ္လာဟ်အလီကာရီသခင်က “ဂျဟန္နမ်ိတွေရဲ့ ဘာသာစကားဟာ တမလွန်မှာ အရဗီမဟုတ်ဘူး လို့” ဆိုထားပါသည်။ အရဗီစာပေနှင့် ကျွန်ုပ်တို့သာသနာမှာ နှစ်လွှာတစ်ခက် စွယ်တော်ရွက်ကဲ့သို့ပင် ဖြစ်ပါသည်။

ယနေ့ကျွန်ုပ်တို့အနက်အချို့ လောကတွင် ဂုဏ်အင်တွေ တိုးပွား စေရန်၊ အလုပ်အကိုင် အခွင့်အလမ်းများ ရရှိစေရန်၊ အင်္ဂလိပ် စကား၊ တရုတ်စကား၊ ကိုးရီးယားစကားများ သင်ယူနိုင်သည်ဆိုလျှင်၊ အလွန်

လွယ်ကူကာ ပျားသကာကဲ့သို့ ချိုမြိန်လှပြီး နှစ်ဘဝနှစ်ဌာနလုံးတွင် အကြွင်းမဲ့ အကျိုးဖြစ်ထွန်းစေမည့် အရဗီဘာသာစကား၊ စာပေတို့ အား အဘယ့်ကြောင့် မသင်ရမည်နည်း။

## ရင်သွေးငယ်တို့အတွက် စဉ်းစားပေးပါ

ကဗရ်စခန်းတွင် မေးမြန်းခံရမည့် မေးခွန်းများသည်လည်း အရဗီလိုဖြစ်မည်ဆိုသည်ကို ငယ်စဉ်ကတည်းကပင် ကျွန်ုပ်တို့ ကြားဖူးထားကြပြီး ဖြစ်ပါသည်။ မည်သည့်အညှိုးကြောင့်မှ မိမိတို့ရင်သွေးငယ်များကို အရဗီနှင့်ဝေးအောင် မပြုလုပ်သင့်ပါ။ အရဗီစကား ပြောဆိုလေတိုင်း ချစ်နဗီ ﷺ ထာဝရ သုံးစွဲတော်မူခဲ့သည့်အတွက် အရဗီဘာသာစကားကို ပြောဆိုသုံးစွဲနေမည် ဆိုလျှင် ဆဝါးဗ်များပင်လျှင် ရရှိနေဦးမည်ဖြစ်ပါသည်။

## ဤကျမ်းငယ်၏ သမိုင်းအကျဉ်း

ဤအတွေး ဤသောကများကို အရင်းခံထားပြီး ခေတ်အဆက်ဆက်မှ ပညာရှင်ကြီးများသည် အရဗီစာပေ ဖြန့်ချိရေး၊ အရဗီစကားလိုက်စားရာတွင် နိုးကြားရေးတို့အား စနစ်တကျ ဆောင်ရွက်ခဲ့ကြပါသည်။ ဤကြိုးပမ်းဆောင်ရွက်ချက်များအနက် ကျေးဇူးရှင်ဆရာသခင်ကြီး ဟဇရသ်ရှိုင်ခ်ခ် မော်လာနာ ဇကရီယာ ﵀ သခင်ကြီးရေးသားပြုစုခဲ့သည့် فضائل اللغة العربية အမည်ရှိ ကျမ်းငယ်သည်လည်း အလွန်ပင်အကျိုးအာနိသင်များ ပြည့်မောက်နေပါသည်။ ဆရာသခင်ကြီးသည် အရဗီဘာသာစကား၏ ထွတ်မြတ်မှုများကို ကုရ်အာန်၊ ဟဒီးဆ်နှင့် ခေတ်အဆက်ဆက်ရှိ ပညာရှင်တို့၏ အဆိုအမိန့်များကို

ကိုးကားတင်ပြထားပါသည်။ ထိုသို့တင်ပြချက်များကို အရဗီဘာသာဖြင့် ရှိုင်ခ် မုဟမ္မဒ် ယူစွတ်ဖ် ဆွာလူဂျီမှ စနစ်တကျ ပြန်ဆိုခဲ့ပါသည်။

## မော်လာနာ ဇဖရ် (အလ်ကောင်ဆရီ) (သို့) မျိုးဆက်သစ် ကလောင်တစ်ချောင်း

အမိမြန်မာနိုင်ငံတော်မှ မွတ်စ်လင်မ်ညီနောင်များ အကျိုးခံစားနိုင်ရန် معهد الإحسان لتعليم العلوم الإسلامية (မြစ်ငယ်မြို့)၏ ဆရာတစ်ပါးဖြစ်သူ ဟာဖိဇ်မော်လာနာ မုဟမ္မဒ် ဇဖရ် (အလ်ကောင်ဆရီ)မှ လှလှပပ ဘာသာပြန်ဆိုပေးခဲ့ပါသည်။ မူရင်းအာဘော်မပျက် ခံစားချက်များကိုပါ ပြန်ဆိုပေးထားသည်မှာ ဆရာသခင်အား အရှင်မြတ် ချီးမြင့်ထားသော ဘာသာပြန် ပါရမီဟူပင် ဆိုရပေမည်။ မော်လာနာ၏ ဘာသာပြန်စာမူအား အစမှအဆုံးတိုင်ဖတ်ကြည့်ရာ ဘာသာပြန်နယ်ပယ်တွင် ပထမဆုံး ခြေလှမ်းဖြစ်သော်လည်း အလွန်ပင် အသက်ဝင်လှသည့် ဘာသာပြန်ထားခြင်း ဖြစ်ကြောင်း တွေ့ရှိရသည်။

မော်လာနာ ဇဖရ်ဆပ်သည် ကျောင်းသားဘဝကတည်းပင် အရဗီစာပေကို လွန်စွာချစ်မြတ်နိုးသည့် ကျောင်းသား တစ်ဦးဖြစ်ခဲ့သည်။ အရဗီကို မိမိဘဝ၏ အစိတ်အပိုင်းတစ်ခုအဖြစ် ခံယူထားသူဖြစ်သည့်အားလျော်စွာ အသွေးအသားထဲတွင်ပင် အရဗီချစ်စိတ်များ စိမ့်ဝင်နေသူဖြစ်ပါသည်။ အရဗီစာပေအနုပညာ၊ အလင်္ကာတို့ကို ပါရဂူမြောက် တတ်ကျွမ်းသည်အထိ ကြိုးစားအားထုတ်နေသည့် ပညာရှင်တစ်ပါးလည်းဖြစ်သည်။ လက်ရှိကာလတွင်လည်း မိမိ၏ ဆရာများဖြင့် ဆက်သွယ်သည့်အခါတိုင်း အရဗီဘာသာစကားဖြင့်သာ ဆက်သွယ်လေ့ရှိသည်။

ကျွန်ုပ်တို့၏ ဆရာသခင်တစ်ပါးဖြစ်သော အလ်ဟားဂ်ျ ဟဇရသ် မော်လာနာ စိုင်ဖွလ္လာဟ်ဆပ် ﵀ ကွယ်လွန်ချိန် မော်လာနာ ဇဖရ် ရေးသားလိုက်သည့် ဝမ်းနည်းခြင်းသဝဏ်လွှာသည် မော်လာနာ၏ အရဗီစာပေနယ်ပယ်တွင် ပိုင်ဆိုင်ထားသည့် အဆင့်အတန်းကို သက်သေထူနေပါသည်။

## ကျေးဇူးတင်ခြင်း မှတ်တမ်း

နိဂုံးချုပ်အနေဖြင့် ဤစာအုပ်အားပြုစုခဲ့သည့် ကျေးဇူးရှင် ဆရာသခင်ကြီး ဟဇရသ်မော်လာနာ ဇကရီယာဆပ် ﵀၊ အရဗီဘာသာပြန်ဆိုခဲ့သည့် မော်လာနယူစွတ်ဖ်ဆပ်၊ မြန်မာဘာသာဖြင့်ပြန်ဆိုပေးခဲ့သည့် မော်လာနာဇဖရ်ဆပ်၊ ဤစာအုပ်ကို စနစ်တကျ စိစစ်ပြီး ကွန်ပျူတာစာစီပေးခဲ့သော မော်လာနာ၊ မုဖ်သီ အဗ်ဒုလ်ဂနီ (နဒ်ဝီ၊ မဇ္ဇာဟေ့ရီ)နှင့် မေတ္တာစေတနာ အပြည့်ဖြင့် မျက်နှာဖုံး ဒီဇိုင်းဆွဲပေးသော မော်လာနာ မုဟမ္မဒ် (အလ်ကောင်ဆရီ)တို့အား မှတ်တမ်းတင် ဂုဏ်ပြုအပ်ပါသည်။

မြင့်မြတ်တော်မူသော အရှင်မြတ် ဤစာအုပ်ငယ်ကို အထူးလက်ခံ သဘောတူတော်မူပါစေ။ ဤစာအုပ်ကို ဘာသာပြန်ဆိုပေးသည့် မော်လာနာ ဇဖရ်၏ သက်တမ်းကို စိတ်၏ချမ်းသာခြင်း၊ ကိုယ်၏ကျန်းမာခြင်းနှင့်အတူ သာသနာ့အကျိုးများ သယ်ပိုးခြင်းဖြင့် ခမ်းနားသိုက်မြိုက်စေတော်မူပါ။

ဤစာအုပ် ဖြစ်မြောက်ရေးတွင် အုပ်တစ်ချပ်သဲတစ်ပွင့် ပါဝင်ခွင့်ရခဲ့သူများနှင့် ဤစာအုပ်မှ အကျိုးခံစားကြသည့်စာဖတ်ပရိသတ်များ

အားလုံးကို အရှင်မြတ် ကောင်းသောအစားများ ချီးမြှင့်တော်မူပါစေ၊ အကျိုးထူးများ ဆွတ်ခူးနိုင်ပါစေဟု ရင်နှင့်အမျှ ဆုမွန်ဒိုအာ ပြုရင်းဖြင့်...

**မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊အဗ္ဗလ်ဟာစနီ၊မဇွာဟေ့ရီ)**

ဟိဂ်ျရီ (၁၄၄၃)ခု၊ မုဟာရ်ရမ် (၁၄)ရက်၊

ခရစ်နှစ်(၂၀၂၁ခု၊ဩဂုတ်လ (၂၃)ရက် (တနင်္လာနေ့)

## ရှိုက်ခွလ်ဟဒီးဆ်ဟဇရည်မောင်လာနာမိုဟမ္မဒ်ဇကရိယာ(ﷺ)သခင်၏ နိဒါန်း

ဤစာတမ်းငယ်လေးသည် အရဗီစာပေ၏ ထွတ်မြတ်မှုများကို ကျမ်းတော်မြတ်ကုရ်အာန် ၊ ဟဒီးဆ်တော်များ နှင့် သာသနာ့ပညာရှင်တို့၏ အဆိုအမိန့်အများဖြင့် စုစည်းတင်ပြထားသည့် စာတမ်းငယ်လေး ဖြစ်သည်။

ၵင်းစာတမ်းငယ်အားစုစည်းတင်ပြရခြင်း၏အကြောင်းမှာ... ကျွန်တော်သည် ဟဂျ်ရီ (၁၃၉၅) ခုနှစ်၊ ရှောင်ဝလ်လ၏ နောက်ဆုံး ညချမ်းများအနက် ညတစ်ညဌကိုယ်တော်မြတ်(ဆွ)ကိုအိပ်မက် ထဲတွင် ဖူးမြော်ခွင့်ရခဲ့သည်။ ကိုယ်တော်မြတ် (ﷺ)က ကျွန်တော့်ကို “အရဗီ စာပေနှင့်ပတ်သတ်ပြီး စုစည်းတင်ပြထားသော ဤစာတမ်းငယ်လေး အကြောင်းကိုအသင်ကြားဖူးသလား”ဟုမေးမြန်းခဲ့လေသည်။ ကျွန်တော်သည်ၵင်းစာတမ်းငယ်ကို (အိပ်မက်ထဲတွင်) အကြိမ်ကြိမ် မြင်တွေ့ခဲ့ရပါသည်။ ထို့အတူၵင်းစာတမ်းငယ်လေးတွင်ပါရှိသော အရဗီ စာပေ၏ထွတ်မြတ်မှု၊အရေးကြီးပုံတို့ နှင့် ပတ်သတ်သည့် ဟဒီးဆ်တော် များ၊ ဆွေးနွေးချက်များကို မှတ်မိနေခဲ့သည်။ ကိုယ်တော်မြတ်က ကျွန်တော့်ကို အရဗီစာပေ၏ ထွတ်မြတ်မှုနှင့် အရေးကြီးပုံတို့အကြောင်း စာတမ်းငယ်လေးတစ်စောင်ကို စုစည်းတင်ပြရန် တောင်းဆိုနေသည်ဟု သိရှိရပြီး ရုတ်ခြည်း အိပ်မက်ထဲဌပင် ၵင်းစာစောင်၏ပြုစုခြင်းကို စတင် လိုက်ပါသည်။

ထို့နောက်ကျွန်တော်အိပ်ရာမှနိုးလာခဲ့သည်။ ၎င်းစာတမ်းငယ်လေး၏နာမည်နှင့်စာတမ်းထဲတွင်ပါရှိသော ဟဒီးဆ်တော်များ၊ဆွေးနွေးချက်များကိုလုံးဝမေ့သွားခဲ့သည်။သို့သော်ကျွန်တော့်အသိ ဉာဏ်ထဲတွင် အိပ်မက်သည် စွဲကျန်နေရစ်ခဲ့သည်။ ထပ်ဖန်တလဲလဲ အိပ်မက်မက်နေသည့်အခါ ကျွန်တော်သည် ဟိဂျ်ရီ (၁၃၉၆) ခုနှစ်၊ ဆွဖရ်လ (၂၅) ရက်၊ ဗုဒ္ဓဟူးနေ့ ဇိုဟိုရ်နမားဇ်မတိုင်ခင် ကိုယ်တော်မြတ်(ﷺ)၏ ဗလီဝတ်ကျောင်းတော်၌ ဤစာတမ်းငယ်လေးအား အလ္လာဟ်အရှင်မြတ်၏နာမည်တော်ဖြင့်စတင်စုစည်းတင်ပြခဲ့ပါသည်။

အလ္လာဟ်အရှင်မြတ်သည် မိမိကျေနပ်နှစ်သက်သော လုပ်ငန်းများကို ဆောင်ရွက်နိုင်စွမ်းပေးသနားတော်မူသော အရှင်ဖြစ်သည်။

## ကျမ်းတော်မြတ်ကုရ်အာန်၊ ဟဒီးဆ်တော်များနှင့် သာသနာ့ပညာရှင်တို့၏ အဆိုအမိန့်များ၌လာရှိသော အရဗီစာပေ၏ထွတ်မြတ်မှုများ ...

ကျမ်းတော်မြတ်ကုရ်အာန်တွင် လာရှိသော အရဗီစာပေ၏ ထွတ်မြတ်မှုများနှင့် အရေးကြီးပုံ။

➲ ကေန်မလွဲ ငါအရှင်မြတ်သည် ယင်းကျမ်းဂန်ကို အသင်တို့နားလည်စေရန် (စကားအဖွဲ့အနွဲ့ အသုံးအနှုန်းအလွန်ကောင်းသော) ကုရ်အာန်ကျမ်းတော်မြတ်အဖြစ် အရဗီဘာသာစာပေဖြင့် ချပေးသနားတော်မူခဲ့၏။ **(ယူစုဖ် -၁၂- အာယသ် -၂-)**

**ရှင်းလင်းချက်**

ဟဇရသ် မောင်လာနာ အရှ်ရဖ်အလီ ထာနဝီသခင်ကြီးက ဤအာယသ်အား အကျယ်ဖွင့်ဆိုထားသည်မှာ “မုချကေန် ငါအရှင်မြတ်သည် (အာယသ်တော်များ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်များနှင့် စကားလုံးဖွဲ့စည်းပုံများကို) အသင်တို့ အဦးဆုံးသိနားလည်စေရန် (ကျမ်းတော်မြတ်ကုရ်အာန်ကို အရဗီစာပေဖြင့် ချပေးတော်မူ၏။) အဘယ့်ကြောင့်ဆိုသော် အရဗီစာပေသည် အသင်တို့၏ စာပေဖြစ်သောကြောင့်ပင်။

**(ဗယာနုလ်ကုရ်အာန် - အတွဲ-၁- စာမျက်နှာ -၇၅၁-)**

**ရှင်းလင်းချက်**

ရှိုင်ခွလ်အစ္စလာမ် အလ္လာမာ ရှဗ္ဗီးရ်အဟ်မဒ်က ရှိုင်ခွလ်ဟင်းန်ဒ်မဟ်မူးဒ် ဟစန် ဒေယိုဗန်ဒီ ရေးသားပြုစုထားသော ကျမ်းတော်မြတ်

ကုရ်အာန် ဘာသာပြန်ကျမ်းကြီး၏ မှတ်ချက်တစ်ခု၌ မိန့်ဆိုထားသည်မှာ “အလ္လာဟ်အရှင်မြတ်သည် ကျမ်းတော်မြတ်ကုရ်အာန်အား အရဗီစာပေဖြင့် ချပေးတော်မူခဲ့၏။အဘယ့်ကြောင့်ဆိုသော် အရဗီစာပေသည် လေယူလေသိမ်းကောင်းမွန်မှု၊ ခိုင်မာကျစ်လစ်မှု၊ ပြည့်စုံကုံလုံမှု၊ ရသပြောင်မြောက်မှု၊ စသည့်အချင်းလက္ခဏာများဖြင့် စီချယ်ထားသောအတွက်ကြောင့်ပင်ဖြစ်သည်။ ကိုယ်တော်မြတ် (ﷺ) ကိုယ်တိုင်သည် အရဗ်လူမျိုးတစ်ဦးဖြစ်သကဲ့သို့ ကိုယ်တော်မြတ် (ﷺ) စေလွှတ်ခံရသောလူမျိုးများသည် အရဗ်လူမျိုးများပင်ဖြစ်သည်။ ၎င်းတို့သည် ကိုယ်တော်ယူဆောင်လာသော သာသနာကို ကမ္ဘာနှင့်အဝှမ်းဖြန့်ချီမည့် ပုဂ္ဂိုလ်များဖြစ်သည်။

➯ အထက်ဖော်ပြပါ အာယသ်တော်သည်လည်း ဤအကြောင်းအရာအားရည်ညွှန်းပြဆိုနေသည်။ ဆိုလိုသည်မှာ အသင်တို့သည် ကျမ်းတော်မြတ်ကုရ်အာန်၏ အသိပညာများကိုအပြည့်အဝ သိရှိနားလည်ပြီး တစ်ခြားသောသူများအား တစ်ဆင့်ပြန်လည်ပို့ချရန် ၎င်းကျမ်းတော်မြတ်သည် အရဗီစာပေဖြင့် ချပေးခြင်းခံရသည်။ ထို့ကြောင့် ၎င်းတို့သည်လည်း ယင်းတာဝန်အား ကောင်းမွန်စွာဆောင်ရွက်ခဲ့ကြသည်။

**(သတ်ဖ်စီရေ့ အွဆ်မာနီ၊ စာမျက်နှာ -၃၁၁-။)**

**ရှင်းလင်းချက်**

အလ္လာမာ အိဗ်နေ့ ကစီးရ်သခင်က မိန့်ဆိုသည်မှာ -အမွန်မြတ်ဆုံးသော ကျမ်းဂန်သည် အမွန်မြတ်ဆုံးသော လမြတ်ရမဇာန်၌ အမွန်

မြတ်ဆုံးသော ဒေသတွင် အမွန်မြတ်ဆုံးသော ကောင်းကင်တမန်တော်ကြီးမှတစ်ဆင့် အမွန်မြတ်ဆုံးသော စာပေဖြင့် အမွန်မြတ်ဆုံးသော နဗီတမန်တော်အပေါ် ချပေးခြင်းခံရသည်။ ဤသို့ဖြင့် ကျမ်းတော်မြတ်ကုရ်အာန်သည် အဘက်ဘက်မှ မွန်မြတ်မှုအပေါင်းသရဖူကို ဆောင်းနေပေသည်။ **(သတ်ဖ်စီးရ် အိဗ်နေ့ကဆီးရ်၊ အတွဲ -၄- စာမျက်နှာ -၃၁၃-။)**

ထို့အတူ အလ္လာဟ်အရှင်မြတ်သည် ကျမ်းတော်မြတ် ကုရ်အာန်ကို အရဗီစာပေဖြင့် ချပေးခြင်းအားဖြင့် လူသားမျိုးနွယ်တစ်ရပ်လုံးအား ကျေးဇူးပြုထားကြောင်း (ကျမ်းတော်မြတ်ကုရ်အာန်၏) မြောက်မြားစွာသော အာယသ်တော်များ၌ မိန့်ကြားထားပါသည်။

➲ "၎င်းပြင် ကေန်မလွဲ ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသည့် အရှင်ချပေးတော်မူသော (ကျမ်းဂန်ပင်) ဖြစ်သည်။

**(ကုရ်အာန် -၂၆-၊ အာယသ်တော် -၁၉၂-။)**

➲ (အရ်ရူဟုလ်အမီးန်) ယုံကြည်စိတ်ချအပ်သော ဝိညာဉ်တော်ကောင်းကင် တမန်တော် ဂျစ်ဗ်ရီလ်သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို ယူဆောင်ချပေးခဲ့လေသည်။ **(စူရဟ် -၂၆- အာယသ်တော် -၁၉၃)**

➲ ("အသင်၏စိတ်နှလုံးပေါ်၌ အသင်သည် သတိပေးနှိုးဆော်သူတို့တွင် အပါအဝင်ဖြစ်စေရန်")။ **(စူရဟ် -၂၆- အာယသ်တော် -၁၉၄-)**

➲ "စင်စစ်သော် ဤနည်းအတိုင်းပင် ငါအရှင်မြတ်သည် ယင်းကျမ်းမြတ် ဒေသနာတော်ကို ထင်ရှားပြတ်သားသော အရဗီဘာသာဖြင့် အမိန့်တော် (စီရင်ဆုံးဖြတ်ချက်) တစ်ရပ်အဖြစ် ထုတ်ပြန်တော်မူခဲ့လေ၏။

**(စူရဟ် -၁၄- အာယသ်တော် -၃၇-)**

➲ "ထိုနည်းတူစွာ ငါအရှင်မြတ်သည် အသင်တို့ထံသို့ အသင်သည် (ဦးစွာပထမ) မက္ကာဟ်မြို့(သားတို့)ကိုလည်းကောင်း သတိပေးနှိုးဆော်စေရန်၊ ထို့ပြင် ဒွိဟာသံသယအလျှင်းမရှိသော (ကိယာမသ်ရှင်ပြန်ထမည့်) နေ့နှင့်စပ်လျဉ်း၍ အသိပေးနှိုးဆော်စေရန်လည်းကောင်း၊ အရဗီဘာသာစကားဖြင့် ဖြစ်သော (ဤ) ကုရ်အာန်ကျမ်းတော်မြတ်ကို ထုတ်ပြန်တော်မူခဲ့၏။ **(စူရဟ် -၄၂- အာယသ်တော် -၇-)**

➲ (ငါအရှင်မြတ်သည်) ရှင်းလင်းထင်ရှားစွာသော ကျမ်းဂန်ကို သက်သေထူတော်မူ၏။ **(စူရဟ် -၄၃- အာယသ်တော် -၂)**

➲ သိနားလည်ကြစေရန် ယင်းကျမ်းဂန်ကို အရဗ်ဘာသာစကားဖြင့် (ထုတ်ပြန်အပ်သော) ကုရ်အာန်ကျမ်းတော်မြတ်ပြုလုပ်တော်မူ၏။

**(စူရဟ် -၄၃- အာယသ် -၃-)**



## ဟဒီးဆ်တော်များ၌လာရှိသော အရဗီစာပေ၏ ထွတ်မြတ်မှုများ

➲ ကိုယ်တော်မြတ် (ﷺ)က ဤသို့မိန့်တော်မူခဲ့သည်- “အသင်တို့ အချက်သုံးချက်ကြောင့် အရဗ်လူမျိုးတို့အား ချစ်မြတ်နိုးကြလေကုန်။ အဘယ့်ကြောင့်ဆိုသော် ငါကိုယ်တော်မြတ်သည် အရဗ်လူမျိုးတစ်ဦး ဖြစ်သလို ကျမ်းတော်မြတ်ကုရ်အာန်နှင့် ဂျန္နသီတို့၏ ဘာသာစကား သည်လည်း အရဗီဘာသာစကားပင် ဖြစ်သောကြောင့်ပင်။

**(သွဗ်ရာနီ ကဗီးရ် - ဟဒီးဆ်နံပါတ် -၆၉၉၉-)**

➯ အထက်ဖော်ပြပါ ဟဒီးဆ်တော်ဖြင့် ကိုယ်တော်မြတ် (ﷺ) သည် အချက်သုံးချက်ကြောင့်အရဗ်လူမျိုးတို့အားချစ်မြတ်နိုးရန်အတိအလင်း မိန့်မြွက်ခဲ့ပေသည်။ ယင်းအချက်သုံးချက်အနက်မှ ပထမဦးဆုံးအချက် မှာကိုယ်တော်မြတ်(ﷺ)သည်အရဗ်လူမျိုးတစ်ဦးဖြစ်သောကြောင့်ပင်။

➯ ကိုယ်တော်မြတ် (ﷺ) ကို ချစ်မြတ်နိုးခြင်းသည် အီမာန်ယုံကြည်မှု အနက်မှတစ်ခုဖြစ်သည်။ ထို့ကြောင့် ကိုယ်တော်မြတ်(ﷺ)က ဤသို့ မိန့်တော်မူခဲ့သည်။ “အသင်တို့သည် မိမိတို့၏ဖခင်၊ သားသမီးများ နှင့် လူသားထုတစ်ရပ်လုံးထက်သာပို၍ငါကိုယ်တော်မြတ်အားမချစ်မြတ်နိုး သရွေ့ ပြည့်ဝသော အီမာန်သက်ဝင်ယုံကြည်သူများ မဟုတ်ပေ။”

➯ လူတစ်ဦးက တစ်ဦးကိုချစ်မြတ်နိုးပြီဆိုလျှင် ချစ်သူ၏လှုပ်ရှားမှု၊ ဟန်ပန်အမူအရာတို့ကိုလည်းကောင်း၊ ၎င်းနှင့်ပတ်သက်ဆက်နွှယ်နေ သည့်အရာဝတ္ထုတို့ကိုလည်းကောင်း၊အလိုလျောက်ချစ်မြတ်နိုးသွားခြင်း

သည်သဘာဝပင်ဖြစ်သည်။လိုင်လာ့အချစ်ရူးသွပ်သောမဂျ်နူန်း သည်ပင် လျှင်လိုင်လာကိုအလွန်အမင်းချစ်မြတ်နိုးသောကြောင့် လိုင်လာနေထိုင် သည့် အရပ်ဒေသသို့ ဖြတ်သွားဖြတ်လာလုပ်သည့်အခါ တိုင်း ထိုအရပ်ရှိ တံတိုင်းများအား နမ်းရှုပ်လေ့ရှိသည်။ ထို့နောက် မဂျ်နူန်းသည် ဤသို့ ကဗျာလင်္ကာသီကုံးလေသည် ✍

"ကျွန်တော်သည် လိုင်လာနေထိုင်သောအရပ်ဒေသသို့ ဖြတ်သွား ဖြတ်လာ လုပ်သည့်အခါတိုင်း ထိုအရပ်ရှိတံတိုင်းများအား တစ်ခုပြီး တစ်ခု နမ်းရှုပ်လေ့ရှိသည်။ စင်စစ် ကျွန်တော်သည် ထိုတံတိုင်းများကို ချစ်မြတ်နိုးသောကြောင့်မဟုတ်ပေ။ထိုတံတိုင်းတွင်း၌ နေထိုင်သည့်သူ အား ချစ်မြတ်နိုးသော ကြောင့်ပင်ဖြစ်သည်"။

✍ မေစံပျော်ရာ ဘုံဆောင်နန်းကြား
လှမ်းလာမိတိုင်း အနမ်းကြွေငြိ
လှမ်းမိတံတိုင်း မြှူမဖမ်းနိုင်ခဲ့
အတွင်းစံပျော် မောင့်ချစ်ဖော်၏
ချစ်ခေါ်ဆောင်သော နံ့သာစုံကြောင့်တည်း။

➯ မွတ်စ်လင်မ်တစ်ဦးသည်လည်း ကိုယ်တော်မြတ် (ﷺ) နေထိုင် သည့် အရပ်ဒေသကိုလည်းကောင်း၊ ကိုယ်တော်မြတ်(ﷺ) ပြောဆိုသုံးနှုန်းလေ့ ရှိသောဘာသာစကားကိုလည်းကောင်း၊ကိုယ်တော်မြတ်(ﷺ)၏ မျိုးနွယ် ဝင်တို့ကိုလည်းကောင်း၊၎င်းနှင့်ဆက်နွယ်ပတ်သတ်သည့် အရာတိုင်းကို

လည်းကောင်း မည့်သည့်အတွက်ကြောင့် အမြတ်တနိုးမထားနိုင်ရမည်နည်း။

ꧏ အေမာမ် ဆအ်လဗီ (ﷺ) သခင်ကမိန့်ဆိုခဲ့သည်မှာ - မြင့်မြတ်တော်မူသောအလ္လာဟ်အရှင်မြတ်အား ချစ်မြတ်နိုးခြင်းသည် ကိုယ်တော်မြတ် (ﷺ)ကိုချစ်မြတ်နိုးခြင်းဖြစ်သလို ကိုယ်တော်မြတ်(ﷺ)၏ မျိုးနွယ်အရဗ်တို့အားလည်း ချစ်မြတ်နိုးခြင်းပင် ဖြစ်သည်။ အရဗ်မျိုးနွယ်ဝင်တို့အား ချစ်မြတ်နိုးခြင်းသည်အမွန်မြတ်ဆုံးသောပုဂ္ဂိုလ်အပေါ်၌ ကျရောက်လာခဲ့သည့်ထွတ်မြတ်သောကျမ်းဂန်၏စာပေ(အရဗီစာပေ)ကို ချစ်မြတ်နိုးခြင်းပင်ဖြစ်သည်။အရဗီစာပေကိုချစ်မြတ်နိုးခြင်းသည် ၎င်းစာပေအပေါ်၌ စွမ်းစွမ်းတမံကြိုးပမ်းဆောင်ရွက်ခြင်းပင်ဖြစ်သည်။



## အရပ်မျိုးနွယ်တို့ကို မုန်းတီးခြင်းသည်
## သာသနာမှ ကင်းကွာရခြင်း၏ အကြောင်းခံ

ဟဇရသ် စလ်မာန် ဖွာရစီ(ﷺ)သခင်သည် ထင်ပေါ်ကျော်ကြားသော သာဝကကြီးများအနက်မှဖြစ်သည်။ ၎င်းသာဝကကြီးသည် မိမိ၏နေအိမ်မှထွက်လာခဲ့ပြီး စစ်မှန်သော သာသာနာအား လေ့လာရှာဖွေရင်း သခင်တစ်ယောက်ပြီး တစ်ယောက်ထံ၌ ကျွန်ပြုခံဘဝသို့ ဆိုက်ရောက်ခဲ့သည်။ ထို့နောက်မဒီနာရွှေမြို့တော်သို့ ရောက်ရှိလာပြီး အစ္စလာမ်သာသနာကို လက်ခံခဲ့သည်။

➷ အလ္လာမာ အိဗ်နို့ဟိဗ္ဗါန်းနှင့် အေမာမ်ဟာကင်မ် (ﷺ) သခင်တို့ က ဟဇရသ်အိဗ်နို့အဗ္ဗားစ် (ﷺ) သခင်၏ ဆင့်ပြန်ချက်တစ်ခုကို ဤသို့တင်ပြထားသည် - "ဟဇရသ် စလ်မာန်ဖွာရစီ (ﷺ) သခင်ကြီးသည် မိမိ၏ ဖြစ်ရပ်တစ်ခုအား ပြောပြခဲ့သည်- ◖ကျွန်တော့်ဖခင်သည် ရွာ၏အကြီးအကဲတစ်ဦးဖြစ်သည်။ ကျွန်တော်သည် စစ်မှန်သောသာသနာကို ရှာဖွေရန်အိမ်မှ ထွက်ပြေးလာခဲ့ပြီး မဒီနာရွှေမြို့တော်သို့ ရောက်သည့်တိုင်အောင် သခင် တစ်ယောက်ပြီးတစ်ယောက် လက်ထဲ၌ ကျွန်ပြုခံဘဝသို့ ဆိုက်ရောက်ခဲ့သည်◗ အခြားသော ဆင့်ပြန်ချက်တစ်ခု၌ ဟဇရသ်စလ်မာန်ဖာရစီ(ﷺ)သခင်ကြီးကဤသို့မိန့်ဆိုခဲ့သည်မှာ......
◖မိမိသည် သခင် (၁၀) ယောက်လက်ထဲ၌ ကျွန်ပြုခံခဲ့ရသည်◗

ဟဇရသ် စလ်မာန်ဖာရစီ (ﷺ) သခင်၏ ဝိသေသများအား ဖော်ကျူးထားသည့် ဟဒီးဆ်တော်တစ်ပုဒ်ကို ဟဇရသ်အဗူဟိုရိုင်ရာဟ် (ﷺ) သခင်ကြီးကဆင့်ပြန်ခဲ့သည်- ❪ကျွန်တော်တို့ ကိုယ်တော်မြတ် (ﷺ) ၏ ထံတော်ပါး၌ ထိုင်နေစဉ် စူရာဂျုမုအာကျရောက်လာခဲ့သည် “ထိုမှတစ်ပါး (ထိုအရှင်မြတ်သည်) ၎င်းတို့အနက်မှ ၎င်းတို့နှင့် လာရောက် ပူးပေါင်းခြင်းမရှိကြသေးသောသူတို့အဖို့လည်း (ထိုရစူလ် တမန်တော်အား စေလွှတ်တော်မူခဲ့၏)❫ **(စူရာဟ်ဂျုမုအာ -၆၂- အာယသ် -၃)**

➯ ဤအာယသ်တော် ကျရောက်လာသည့်အခါ (ထိုအာယသ်တော် ၌ ဖော်ပြထားသော)သူများသည် မည်သူများပါနည်းဟု သာဝကကြီး များက ကိုယ်တော်မြတ် (ﷺ)အား မေးမြန်းလျှောက်ထားခဲ့ကြသည်။ (ထိုအချိန် ဟဇရသ် စလ်မားန် ဖွာရစီ (ﷺ) သခင်သည် ကျွန်တော်တို့နှင့် အတူတကွရှိနေခဲ့သည်)။ ထိုအခါ ကိုယ်တော်မြတ် (ﷺ)က မိမိ၏လက် တော်ကို ဟဇရသ် စလ်မားန်ဖာရ်စီ (ﷺ)သခင်၏ကိုယ်ပေါ်၌တင်၍ မိန့် ဆိုတော်မူခဲ့သည်။ “အကယ်၍ ကောင်းကင်က ကြယ်တာယာတွေပေါ် မှာသာ ‘အီမာန်’ တည်ရှိနေပါစေ (စလ်မာန်၏) မျိုးနွယ်ဝင်များထဲမှ ပုဂ္ဂိုလ်တို့က ၎င်းအီမာန်ကို ဆွတ်ခူးရယူကြမည်သာဖြစ်သည်။

➯ ထို့အတူ ဟဇရသ်ဘိုရိုင်ဒါး (ﷺ) သခင်ကဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) အမိန့်ရှိတော်မူခဲ့သည်- ❪မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်ကလေးဦးသောပုဂ္ဂိုလ်တို့အားချစ်မြတ်နိုးကြောင်းမိန့်ဆို

ခဲ့သလို ငါကိုယ်တော်မြတ်အားလည်း ၎င်းလေးဦးသောပုဂ္ဂိုလ်တို့ကို ချစ်မြတ်နိုးရန် အမိန့်ပေးတော်မူခဲ့သည်။ ထိုအခါသာဝကကြီးများက ထိုလေးဦးသောပုဂ္ဂိုလ်တို့သည် မည်သူများဖြစ်ပါသနည်းဟု မေးမြန်း လျှောက်ထားကြလေရာကိုယ်တော်မြတ်(ﷺ)ကအမိန့်ရှိတော်မူခဲ့သည် "အလီ(ؓ)သည် ၎င်းပုဂ္ဂိုလ်များအနက်မှ ဖြစ်သည်ဟု သုံးကြိမ်သုံးခါ မိန့်ဆိုခဲ့ပြီး အဗူဇရ်၊ မိက်ဒါဒ်၊ စလ်မာန် (ؓ) တို့သည်လည်း အပါအဝင်ဖြစ်ပေသည်ဟု မိန့်ကြားတော်မူခဲ့သည်။"◗

➯ ထိုကဲ့သို့ ဟဇရသ်စလ်မာန်ဖွာရစီ (ؓ) သခင်ကြီး၏ ဂုဏ်ပုဒ် များကို ဟဒီးဆ်တော်များ၌ချီးကျူးဖော်ပြထားလင့်ကစား ကိုယ်တော်မြတ် (ﷺ) က ဟဇရသ်စလ်မာန်ဖွာရစီ (ؓ) သခင်ကို ဤသို့ မိန့်ကြားခဲ့သည် - "အို-စလ်မာန် ငါကိုယ်တော်မြတ်ကို မုန်းတီးခြင်းကြောင့် သာသနာမှ ကင်းကွာမသွားစေနှင့်။" ထိုအခါ ဟဇရသ်စလ်မာန်ဖွာရစီ (ؓ) က "အဘယ်အတွက်ကြောင့် ကိုယ်တော်မြတ် (ﷺ) အားမုန်းတီးရမှာလဲ။ မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော် မြတ် (ﷺ) ကိုအကြောင်းပြုပြီး ကျွန်တော်မျိုးအား လမ်းမှန်ပြသတော်မူ ခဲ့ပါသည်" ဟုလျှောက်ထားခဲ့သည်။ ထိုအခါကိုယ်တော်မြတ်(ﷺ)က မိန့်တော်မူခဲ့ သည်- "အရဗ်မျိုးနွယ်ဝင်များကို မုန်းတီးခြင်းသည် ငါကိုယ် တော်မြတ် (ﷺ)အားမုန်းတီးခြင်းပင်ဖြစ်သည်။"

➯ ဤသို့ ကိုယ်တော်မြတ်(ﷺ)မိန့်ကြားခဲ့ခြင်းသည် ဟဇရသ်စလ်မာန် ဖွာရစီ(ؓ)ဘက်မှအရဗ်မျိုးနွယ်တို့နှင့်ပတ်သတ်ပြီးတစ်စုံတစ်ရာဝေဖန်

ပြောဆိုထားမှုကိုကိုယ်တော်မြတ်(ﷺ)ကြားသိခဲ့သောကြောင့်ဟုယူဆမိပါသည်။၎င်းအပြင်ထိုအချိန်၌ဟဇရသ်စလ်မာန်ဖွာရစီ(رضي الله عنه)သည် အရပ်များကြားတွင် သူတစ်ဦးတည်း အဂျမီ (အရပ်မဟုတ်သူ) ဖြစ်သည်။ ဤအတွက်ကြောင့် သူ၏ လုပ်ရပ်၊ ပြုမူချက်၊ တစ်စုံတစ်ရာသည် အရပ်များအားမထိမဲ့မြင်ပြုသည့် သဘော မသက်ရောက်စေရန် ကိုယ်တော်မြတ်(ﷺ)ကဤသို့မိန့်ကြားခြင်းလည်းဖြစ်နိုင်ပေသည်။ အဘယ့်ကြောင့်ဆိုသော် အရပ်များအား မထိမဲ့မြင်ပြုခြင်းသည် ကိုယ်တော်မြတ်(ﷺ) အားလည်းအရိုအသေမဲ့ရာရောက်သည့်အတွက်ကြောင့်ဖြစ်ပေသည်။

➷ ထို့အတူ ယနေ့ခေတ်တွင် ဟာဂျီများသည် မိမိတို့နေရပ်ဒေသများအား လွန်ကျူးစွာအမွှမ်းတင်ပြောဆိုရင်း အာရေဗျဒေသနှင့် ၎င်း ဒေသ၌ မှီတင်းနေထိုင်ကြသော အရပ်မျိုးနွယ်ဝင်တို့ကိုပါထိပါးပုတ်ခတ်လာကြသည်။ ထို့ကြောင့် ဟာဂျီများသည် ဤလုပ်ရပ်မျိုးမှ ရှောင်ကြဉ်ရန် အရေးကြီးပေသည်။

➷ အေမာမ် ဘိုခါရီ (رحمه الله)သခင်ကြီးက မိမိ၏ကျမ်း (သာရီခွလ် ကဗီးရ်)၌ ဟဇရသ်မေဟ်ဂျန်ဗင်န် အဗ္ဗဒွရ်ရဟ်မားန်၏ ဆင့်ပြန်ချက် တစ်ခုအား တင်ပြထားသည်။ “ကိုယ်တော်မြတ်(ﷺ)သည်ဆွဟာဗာဟ်(رضي الله عنهم) ကြီးများထံသို့ ကြွမြန်းလာတော်မူစဉ် ဆွဟာဗာဟ်(رضي الله عنهم) ကြီးများ က အို-စလ်မာန် အသင်၏မျိုးရိုးစဉ်ဆက်ကဘာလဲဟု မေးသည့်အခါ သခင်ကြီးက ပြောကြားတော်မူခဲ့သည်။ “မြေကြီးဖြင့်ဖန်ဆင်းခံရပြီး မြေကြီးထဲကိုသာ ပြန်သွားရမည့် လူသားတစ်ယောက်အတွက် မျိုးရိုး

စဉ်ဆက်သည်မရှိပါ။ ကျွန်ုပ်၏ (ကောင်းမှုကုသိုလ်များကို ထည့်ချိန်သည့်အခါ) ချိန်ခွင်ကလေးလံနေပါက ကျွန်တော်သည် အလွန်ဂုဏ်ရှိသည့် မျိုးရိုးစဉ်ဆက်မှဖြစ်ပေသည်။ ပေါ့လျော့နေပါက အလွန်ညံ့ဖျင်းသည့် မျိုးရိုးစဉ်ဆက်မှဖြစ်မည်။ ထို့နောက် ဤအာယသ်တော်ကို ဖတ်ရွတ်တော်မူခဲ့သည်။

➯ "ထို့ကြောင့် (ထိုနေ့တွင် ကောင်းမှုဘက်၌) အလေးချိန်သာသော သူတို့သာလျှင်အောင်မြင်မှုရရှိသူများဖြစ်ကြကုန်၏။

သို့ရာတွင် (ကောင်းမှုဘက်တွင်) အလေးချိန် ပေါ့လျော့နေသူတို့မူကား မိမိတို့ကိုယ်ကိုမိမိတို့ပင် ဆုံးရှုံးစေခဲ့သူများဖြစ်ကြပေရာ (၎င်းတို့သည်) ဂျဟန္နမ်ငရဲဘုံ၌ ထာဝစဉ်နေထိုင်ကြရပေမည်။"

**(စူရာဟ် -၂၃-၊ အာယသ်တော် -၁၀၂၊ ၁၀၃-)**

➯ ထိုအခါ ကိုယ်တော်မြတ် (ﷺ)က ဟဇရသ် စလ်မာန်ဖွာရစီ (رضي الله عنه) သခင်အား အို-စလ်မာန် အသင်သည် အရဗ်မျိုးနွယ်ဝင်တို့ကို အချက်သုံးချက်ကြောင့်ချစ်မြတ်နိုးပါ။ အကြောင်းမှာမူ ငါကိုယ်တော်သည် အရဗ်မျိုးနွယ်ဝင်တစ်ဦးဖြစ်သလို ကျမ်းတော်မြတ်ကုရ်အာန်နှင့် ဂျန္နသီတို့၏ ဘာသာစကားသည်လည်း အရဗီဘာသာစကားပင် ဖြစ်သောကြောင့်ဖြစ်သည်။

➯ အလ္လာမာ အိဗ်နို့သိုင်မိယာ (رحمه الله) သခင်ကြီးက မိန့်ဆိုထားသည် မှာ-ကိုယ်တော်မြတ် (ﷺ)က အရဗ်မျိုးနွယ်ဝင်တို့ကို မုန်းတီးခြင်းသည် သာသနာမှကင်းကွာခြင်းနှင့် ငါကိုယ်တော်အားမုန်းတီးခြင်းဖြစ်သည်ဟု

သတ်မှတ်ခဲ့ပေသည်။ စင်စစ်မှာ ကိုယ်တော်မြတ် (ﷺ)က အရဗ် မဟုတ်သူတို့ကို သတိပေးနှိုးဆော်ရန်ဟဇရသ်စလ်မာန်ဖွာရစီ(ﷺ)ကဲ့သို့ ထူးကဲမြင့်မြတ်သည့်ပုဂ္ဂိုလ်အားဤသို့မိန့်ဆိုရခြင်းဖြစ်သည်။

➥ အဘယ့်ကြောင့်ဆိုသော် ရှိုင်သွာန်သည် တစ်ချို့သောသူတို့၏ စိတ်နှလုံးသားကို ထိုလုပ်ရပ်ဘက်သို့ သွေးဆောင်ဖြားယောင်းနေသည်အားအလ္လာဟ်အရှင်မြတ်မှ ကိုယ်တော်မြတ် (ﷺ)ကို အသိပေးလိုက်သောကြောင့်ဖြစ် သည်။

➥ အေမာမ် သိရ်မေဇီ (ﷺ)က အထက်ဖော်ပြပါ (အရဗ်မျိုးနွယ်ဝင်တို့အား ချစ်မြတ်နိုးရန် တိုက်တွန်းနှိုးဆော်ထားသည့်) ဟဒီးဆ်တော်ကိုမှတ်ချက်ပြုသုံးသပ်ထားသော်လည်း ထိုအကြောင်းအရာနှင့် ပတ်သက်ပြီး ဟဒီးဆ်တော်အမြောက်အများ လာရှိထားပေသည်။

“ကိုယ်တော်မြတ် (ﷺ)ကမိန့်တော်မူသည်မှာ-“အရဗ်မျိုးနွယ်ဝင်တို့အား ချစ်မြတ်နိုးခြင်းသည် အီမာန်ယုံကြည်မှုများအနက်မှ ဖြစ်သည်။ ၎င်းတို့ကို မုန်းတီးခြင်းသည် သွေဖည်ဆန့်ကျင်ခြင်းဖြစ်သည်။” ဟု ဟဇရသ် ဂျာဗိရ် (ﷺ) က ဆင့်ပြန်ခဲ့သည်။

➥ အခြားဟဒီးဆ်တော်တစ်ပုဒ်၌ ကိုယ်တော်မြတ်(ﷺ) က မိန့်ဆိုထားသည်မှာ- “အရဗ်မျိုးနွယ်ဝင်တို့အား ချစ်မြတ်နိုးသူကို ငါကိုယ်တော်မြတ် (ﷺ) ချစ်မြတ်နိုးတော်မူသည်။ ၎င်းတို့အားမုန်းတီးသူကို ငါကိုယ်တော်မုန်းတီးတော်မူသည်။”ဟု ဟဇရသ်အဗ္ဗဒွလ္လာဟ် ဗင်န် အိုမရ် (ﷺ) သခင်ကဆင့်ပြန်ခဲ့သည်။

အချုပ်ဆိုရသော် မွတ်စ်လင်မ်ထုတစ်ရပ်လုံးသည် ဂျန္နသ်စကား၊ ကျမ်းတော်မြတ်ကုရ်အာန်၏စာပေနှင့် ကိုယ်တော်မြတ်(ﷺ)၏ ဘာသာစကားဖြစ်သော (အရဗီဘာသာစကား)အား ချစ်မြတ်နိုးရပေမည်။

## အရဗီစကားသည် ဂျန္နသ်တို့၏စကား

➢ မွလ္လာအလီ ကာရီ (ﷺ)သခင်ကမိန့်တော်မူသည်မှာ-“ဂျန္နသ် တွင် သုံးစွဲပြောဆိုမည့် ဘာသာစကားသည် အရဗီဘာသာစကားပင် ဖြစ်သည်”ဟူသော ကိုယ်တော်မြတ်(ﷺ)၏ မိန့်ဆိုချက်ကို ထောက်ရှုဆင်ခြင်သော် ဂျဟန္နမ်တို့၏ ဘာသာစကားသည် အရဗီဘာသာစကား မဟုတ်ဆိုသည့်အချက်အား သိရသည်။

➢ အလ္လာမဟ် အိဗ်နို့အစာကိရ် (ﷺ)က မိမိ၏သာရီးခ်ကျမ်း၌ ဟဇရသ် အိဗ်နို့ အဗ္ဗားစ် (ﷺ) သခင်၏ ဆင့်ပြန်ချက်တစ်ရပ်အား ထုတ်နုတ်တင်ပြထားသည်-“ဂျန္နသ်၌ ဟဇရသ် အာဒမ်(ﷺ)ပြောဆို သုံးနှုံးသည့် ဘာသာစကားသည် အရဗီဘာသာစကားပင် ဖြစ်သည်။ (ရှိုင်သွာန်၏ သွေးဆောင်ဖြားယောင်းမှုကြောင့်) အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အား ဖီဆန်မိသောကြောင့် အရဗီဘာသာစကားကို ရုတ်သိမ်းခဲ့ပြီး စွရ်ယာနီ ဘာသာစကားကို ပြောဆိုသုံးနှုန်းစေခဲ့သည်။တစ်ဖန် ဟဇရသ် အာဒမ်(ﷺ)ကမိမိအမှားကိုဝန်ချတောင်းပန်သောအခါ အလ္လာဟ်အရှင်မြတ်သည် အရဗီစကားအား ပြန်လည်ချီးမြှင့်တော် မူခဲ့သည်။”

➢ ဟဇရသ် ဂျာဗိရ်(ﷺ)၏ ဆင့်ပြန်ချက်တစ်ရပ်တွင်လာရှိသည် မှာ- ကိုယ်တော်မြတ်(ﷺ)က (قُرْآنًا عَرَبِيًّا لِّقَوْمٍ يَّعْلَمُوْنَ) ဟူသော အာယသ်တော် ဖတ်ရွတ်တော်မူခဲ့သည်။ ထို့နောက်မိန့်တော်မူခဲ့သည် - အလ္လာဟ်အရှင်မြတ်က ဟဇရသ်အိစ်မာအီးလ် (ﷺ) အား ဤအရဗီဘာသာစကားကို ချီးမြှင့်တော်မူခဲ့သည်။

➢ အေမာမ်ဘိုခါရီ (ﷺ) သခင်က မိမိ၏ ဘိုခါရီကျမ်း၌ ...

(وَاتَّخَذَ اللهُ إِبْرَاهِيْمَ خَلِيْلًا)ဟု ခေါင်းစဉ်တပ်၍ ဟဇရသ်အိစ်မာအီလ် (ﷺ)နှင့် ၎င်း၏မိခင် ဟာဂျေရာ (ﷺ) သခင်မတို့အကြောင်း လာရှိထားသော ဟဒီးဆ်တော်တစ်ပုဒ်ကို တင်ပြရာတွင် (وَشَبَّ الْغُلَامُ وَتَعَلَّمَ الْعَرَبِيَّةَ) "ဟဇရသ်အိစ်မာအီလ်(ﷺ)သည် လူလားမြောက်လာ၍ အရဗီဘာသာစကားကို သင်ယူဆည်းပူးခဲ့သည်"ဟူသော စာသားအားတွေ့ရှိရသည်။

➯ ဟာဖိဇ်အိဗ်နို့ဟဂျရ်(ﷺ)သခင်က ဤဟဒီးဆ်တော်ကို အကျယ်ဖွင့်ဆိုထားသည်မှာ - အထက်ပါ (وَشَبَّ الْغُلَامُ وَتَعَلَّمَ الْعَرَبِيَّةَ) ဟူသောစာသားကို ထောက်ရှုပြီး အောက်ဖော်ပြပါဟဒီးဆ်တော်များ သည် ခိုင်လုံမှု မရှိသည်အားသိရသည်။ ၎င်းတို့မှာ - - -

① တမန်တော်မြတ်(ﷺ)ကမိန့်တော်မူသည်မှာ - - - " ဦးစွာပထမအရဗီဘာသာစကားအား ပြောဆိုသုံးနှုန်းခဲ့သူသည် အိစ်မာအီးလ်ဘင်န် အိဗ်ရာဟီးမ်(ﷺ)ဖြစ်သည်။"

② ဟာဇရသ်အိဗ်နို့အဗ္ဗားစ်(ﷺ)သခင်ဆင့်ပြန်ထားသည်မှာ“ပထမဦးဆုံး အရဗီဘာသာစကားကိုပြောဆိုခဲ့သူမှာအိစ်မာအီးလ်(ﷺ)ပင်ဖြစ်သည်။”

③ ထို့အတူဟာဇရသ်ဗိုဗိုင်းရ်ဗင်န်ဘက္ကားရ်၏ဆင့်ပြန်ချက်တစ်ခု၌ လာရှိသည်မှာ - အလ္လာဟ်အရှင်မြတ်သည် ဦးစွာပထမ ဟာဇရသ် အိစ်မာအီးလ် (ﷺ)၏ နှုတ်တော်ဖြင့် ရှင်းလင်းပြတ်သားသော အရဗီစကားအားပြောဆိုစေခဲ့သည်။ ဤ “ရှင်းလင်းပြတ်သားသည့်အရဗီစကား”ဟူသည့် စာသားကိုထောက်ရှုပြီးဟာဇရသ်အိစ်မာအီးလ်(ﷺ)သည် ဦးစွာပထမအရဗီစကားအားပြောဆိုသူဟု ယေဘုယျဆို၍မရသော်လည်း ရှင်းလင်းပြတ်သားသောအရဗီစကားကိုဦးစွာပထမပြောဆိုသူဟုဆို၍ရနိုင်ပေသည်။

➤ အချုပ်ဆိုရသော် ဟာဇရသ်အိစ်မာအီးလ်(ﷺ)သည် ဂျုရ်ဟွမ် မျိုးနွယ်ဝင်တို့ထံမှ အရဗီစကားအား သင်ယူခဲ့ခြင်းသာဖြစ်သည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် သခင့်ကိုရှင်းလင်းပြတ်သားသော အရဗီအားချီးမြှင့်တော်မူခဲ့သည်။

➤ အိဗ်နို့ဟေရှားမ် (ﷺ) ၏ ဆင့်ပြန်ချက် တစ်ခုသည် ဤအချက်ကိုအထောက်အပံ့ပြုပေးနေသည်။၎င်းမှာ - “ဟာဇရသ်အိစ်မာအီးလ်(ﷺ) (ပြောဆိုသော)အရဗီစကားသည်ဂျုရ်ဟွမ်မျိုးနွယ်ဝင်တို့(ပြောဆိုသော) အရဗီစကားထက်ပို၍ ရှင်းလင်း ပြတ်သားသည်။

**(ကြည့်- ဖသ်ဟုလ် ဘာရီ၊ အတွဲ --၊ စာမျက်နှာ --၊ သို့ုင်ဗာဟ်ပုံနှိပ်တိုက်)**

ဝိဖ ဝိဖ ဝိဖ

## အရဗီစကားသည် ဝဟီ(ဗျာဒိတ်တော်)၏ ဘာသာစကား

ဟာဇရသ် အိဗ်နို့အဗ္ဗားစ်(ﷺ)၏ ဆင့်ပြန်ချက်တစ်ခု၌ လာရှိသည်မှာ- ဟာဇရသ် အိစ်မာအီးလ်(ﷺ)သည် ဦးစွာပထမ စစ်မှန်သော အရဗီစကားကို ပြောဆိုခဲ့သူဖြစ်သည်။ ဆိုလိုသည်မှာ အရဗ်မျိုးနွယ်ဝင်တို့ ပြောဆိုသုံးစွဲသော အရဗီစကားဖြစ်သည်။ ယင်းဘာသာစကားဖြင့် ကျမ်းတော်မြတ်ကုရ်အာန် ကျရောက်လာခဲ့သည်။ ဗနူကဟ်သွားန်နှင့် ဟိမ်ယရ် မျိုးနွယ်ဝင်တို့ အသုံးပြုသော အရဗီစကားသည် ဟာဇရသ် အိစ်မာအီးလ်(ﷺ)၏ အလျင်ကတည်းက တည်ရှိပြီးသား ဘာသာစကား ဖြစ်သည်။

➢ ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်မှာ - "ငါကိုယ်တော်မြတ်၏အသက်ကို စိုးပိုင်တော်မူသော အရှင်မြတ်၏ကစမ် အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်(ﷺ)တိုင်းအပေါ်သို့ အရဗီဘာသာစကားဖြင့် ဝဟီ(ဗျာဒိတ်တော်)အား ချပေးတော်မူခဲ့သည်။ ထို့နောက် နဗီတမန်တော်(ﷺ)တို့သည် မိမိတို့၏ ဘာသာစကားဖြင့်သာ နောက်လိုက်သားများအား ပြန်လည်ပို့ချတော်မူခဲ့ကြသည်။"ဟု ဟာဇရသ်ဂျာဗိရ်(ﷺ)က ဆင့်ပြန်ခဲ့သည်။ **(သွက်ဗ်ရာနီ အောင်စကဲသ္ဘ်၊ ဟဒီးဆ်နံပါတ်-၄၆၃၅-)**

➢ ဟာဇရသ် အိုမရ် (ﷺ) သခင်က ကိုယ်တော်မြတ် (ﷺ) အား လျှောက်ထားမေးမြန်းတော်မူခဲ့သည် -"အို-တမန်တော်၊ ကိုယ်တော်သည် (ကျွန်တော်တို့အာရဗ်ဒေသ၌ပင် ကြီးပြင်းလာခဲ့ပြီး) မည်သည့်

နေရာကိုမျှ သွားရောက်နေထိုင်ခြင်းမရှိဘဲ ဘယ်အတွက်ကြောင့် အရဗီ စကားကို ကျွန်တော်တို့ထက်ပို၍ ရသမြောက်စွာ ပြောဆိုနိုင်ပါ သနည်း။" ထိုအခါ ကိုယ်တော်မြတ်(ﷺ)က ဖြေကြားတော်မူသည်- "ဟဇရတ် အိစ်မာအီးလ် (عليه السلام)ပြောဆိုသုံးစွဲခဲ့သော ဘာသာစကား (အရဗီဘာသာစကား)သည် ပျောက်ကွယ်သွားသောအခါ ဟဇရတ် ဂျိဗ်ရီးလ် (عليه السلام)က ၎င်းဘာသာ စကားကို ယူဆောင်လာ၍ ထိန်းသိမ်းရန် အမိန့်ပေးသောကြောင့် ငါကိုယ်တော်ထိန်းသိမ်းတော်မူခဲ့သည်။

**(ကြည့်- အေမာမ်စယူသီ(رحمه الله)၏ အလ်မို့ဇ်ဟိရ်ကျမ်း၊ အတွဲ-၁-၊ စာမျက်နှာ-၃၁-)**

➢ အေမာမ် ဘိုင်ဟကီ (رحمه الله) က မိမိ၏ "ရှို့အဗွလ်အီမာန်"ကျမ်း၌ ဟဒီးဆ်တော်တစ်ပုဒ်အား ဤသို့ထုတ်နုတ်တင်ပြထားသည်။ "ကိုယ်တော်မြတ်(ﷺ)သည် မိုးရွာသွန်းဖြိုးရန် မိုးတိမ်များ အုံ့ဆိုင်းနေသော နေ့ တစ်နေ့တွင် တဖြည်းဖြည်းဆင့်ကဲအုံ့ဆိုင်းလာနေသော ကောင်းကင်၏ အခြေအနေကို ညွှန်း၍ ဆွဟာဗဟ်သွာဝကြီး (رضي الله عنهم)များအား မေးမြန်း တော်မူခဲ့သည်- "အသင်တို့ဖြူဆွတ်နေသော မိုးသားတိမ်လွှာများကို ဘယ်လိုမြင်ကြပါသလဲ? ထိုအခါ ဆွဟာဗာဟ် (رضي الله عنهم)များက အထပ်ထပ် နှင့် အလွန်လှပနေပါသည်ဟု ဖြေကြားခဲ့ပါသည်။ ကိုယ်တော်မြတ်(ﷺ) က တိမ်အုပ်တိမ်လိပ်တွေကိုရော ဘယ်လိုမြင်သလဲဟု မေးမြန်းတော်မူ ရာ ဆွဟာဗာဟ်(رضي الله عنهم)များက အလွန်သိပ်သည်း လှပနေပါသည်ဟု လျှောက်ခဲ့သည်။ တဖန် ကိုယ်တော်မြတ်(ﷺ)က (အခု)အုံ့ဆိုင်းညို့မှိုင်း သွားပြီးဖြစ်သော ဝေဟင်တခွင်ကိုရောဘယ်လိုမြင်ကြသလဲဟု မေးမြန်း

လေရာ ဆွဟာဗာဟ် (ﷺ)များက ဝေမှိုင်းလှပနေပါသည်ဟု ဖြေ ကြားလျှောက်ခဲ့ကြသည်။ တဖန် ကိုယ်တော်မြတ်(ﷺ)က လွင့်မျောနေသော မိုးတိမ်များကိုရောဟု မေးမြန်းရာ ဆွဟာဗာဟ်(ﷺ)များက လျင်မြန်စွာ မျောလွင့်နေကြပါသည်ဟု ဖြေလျှောက်ကြသည်။ တဖန် ကိုယ်တော် မြတ်(ﷺ)က တောက်ပလျင်မြန်သော လျှပ်စီးမျှင်တန်းများကိုရော ဟု မေးမြန်းရာ ဆွဟာဗာဟ်(ﷺ)များက အလွန်လျင်မြန်စွာ လက်ပနေပါ သည်ဟု ဖြေလျှောက်ခဲ့ကြသည်။ ထိုအခါ ကိုယ်တော်မြတ်(ﷺ)က မိန့် တော်မူသည်- ဤသည်ကား လန်းဆန်းစိုပြည်စွာ သွန်းဖြိုးမည့် မိုးပင် ဖြစ်၏။ တစ်ဆက်တည်းမှာ ဆွဟာဗဟ်(ﷺ)တစ်ပါးက ကိုယ်တော် မြတ်(ﷺ)ထက် ရသမြောက်စွာနှင့် ပြောဆိုသုံးနှုံးနိုင်သည့်သူကို မတွေ့ ဖူးပါဟု လျှောက်တင်ခဲ့ရာ စင်စစ်မှာ ကျမ်းတော်မြတ်ကုရ်အာန်သည် ရှင်းလင်းပြတ်သားသော အရဗီဘာသာစကားဖြင့် ငါကိုယ်တော့်အပေါ် သို့ ချပေးခြင်းခံရသည့်အတွက်ကြောင့်ပင် ဖြစ်သည်ဟု ဖြေကြားတော်မူ ခဲ့သည်။”

➢ အထက်ဖော်ပြပါ ဟဒီးဆ်တော်၌ ကိုယ်တော်မြတ်(ﷺ)သည် လူ များ၏ စိတ်နှလုံးသားများကို ဖမ်းစားနိုင်သော ဂုဏ်မြောက်သည့်အဖွဲ့ နှင့် တိမ်တိုက်တွေအား ပုံဖော်ပြထားသည်။ ဤအတွက်ကြောင့် ကိုယ် တော်မြတ်(ﷺ)သည် အလင်္ကာရည် ကျော်ကြားသူတစ်ဦးပင်ဖြစ်သည်။

ၜၦ ၜၦ ၜၦ

## အရဗီစကားသည် အစ္စလာမ်သာသနာ၏ အထိမ်းအမှတ်

ကိုယ်တော်မြတ်(ﷺ)က မိန့်တော်မူသည်မှာ- အရဗီစကားကို ပိုင်နိုင်ကျွမ်းကျင်စွာ ပြောဆိုနိုင်သူသည် တခြားသောဘာသာစကားများ ကို မပြောဆိုအပ်ပေ။ အဘယ့်ကြောင့်ဆိုသော် (အရဗီမဟုတ်သည့် တခြားသော ဘာသာစကားများကို ပြောဆိုသုံးစွဲခြင်းသည်) (လူသားတို့ စိတ်နှလုံးသားထဲ၌) အရေခြုံစိတ်များ ဖြစ်ပေါ်စေသောကြောင့်ပင် ဖြစ်သည်။

➢ ရှိုက်ခွလ်ဟဒီးဆ် မော်လာနာဇကရီယာဆပ် (ﷺ) က ဤဟဒီးဆ် တော်နှင့်ပတ်သက်ပြီး ရှုမြင်သုံးသပ်ထားသည်မှာ- ဤဟဒီးဆ်တော်၏ စနဒ်(ကွင်းဆက်)လမ်းကြောင်းတွင် အိုမရ်ဗင်န်ဟာရွန်းဆိုသော ပုဂ္ဂိုလ် တစ်ဦးပါဝင်နေသည်။ အေမာမ် ဇဟဘီ (ﷺ) သခင်ကမိန့်ဆိုသည်မှာ- အလ္လာမာ အိဗ်နို့မအီးန်(ﷺ)က အိုမရ်ဗင်န်ဟာရွန်းကို (ဟဒီးဆ်ဆင့် ပြန်ရာတွင် လိမ်လည်လှီဆယ်သူ)ဟု ယူဆထားသည်။ ကျန်ပညာရှင် များကလည်း ၎င်းဆင့်ပြန်သောဟဒီးဆ်တော်များကို လက်မခံကြပေ။

➢ ထို့အတူ အေမာမ်ဇဟဘီ (ﷺ) က မီဇာန်ကျမ်း၌ အိုမရ်ဗင်န် ဟာရွန်း နှင့်ပတ်သက်ပြီးဟဒီးဆ်ပညာရှင်ကြီးတို့၏ အဆိုအမိန့်များကိုတင်ပြပြီး မိမိယူဆသော ထင်မြင်ချက်အား မိန့်ဆိုထားသည်မှာ - အိုမရ် ဗင်န် ဟာရွန်းသည် မှားယွင်းသောလုပ်ရပ်ကို တမင်သက်သက်ပြုမူ ဆောင် ရွက်သူ မဟုတ်ပေ။ သို့သော် ၎င်းသည်မိမိကိုယ်တိုင်က ဟဒီးဆ် ဆင့်ပြန်

ရာတွင် အပြည့်အဝယုံကြည်စိတ်ချရသူမဟုတ်သလို ယုံကြည်စိတ်ချရသော ဆင့်ဆိုသူများနှင့်ဆန့်ကျင်၍ ဆင့်ပြန်သူလည်း ဖြစ်လင့်ကစား သာသနာ့ပညာရှိကြီးများအနက် တစ်ဦးအပါအဝင်ဖြစ်သည်။

➢ အလ္လာမာဟ် အိဗ်နို့သိုင်မီယာဟ် (ﷺ) သခင်က မိန့်ဆိုသည်မှာ - မုချကေန် အရဗီဘာသာစကားသည် အစ္စလာမ်နှင့် မွတ်စ်လင်မ်တို့၏ အထိမ်းအမှတ်တစ်ခုဖြစ်သည်။ ဘာသာစကားတို့မည်သည် မျိုးနွယ်စုတိုင်း၏ ထူးခြားသော အထိမ်းအမှတ်များအနက်မှဖြစ်သည်။ ဤအတွက်ကြောင့် ဖွေကာဟ်ပညာရှင်အများစုသည် နမားဇ်ဝတ်ပြုရာ၌လည်းကောင်း၊ ဇိက်ရ် လုပ်ရာ၌လည်းကောင်း၊ ဒိုအာများနှင့် အလ္လာဟ်အရှင်မြတ်၏ နာမည်တော်များကို (အရဗီမဟုတ်သော) အခြားဘာသာစကားတို့ဖြင့် ဖတ်ရွတ်ခြင်းအား မနှစ်ခြိုက်ကြပေ။

➢ ဆက်လက်၍ မိန့်ဆိုသည်မှာ- အီဂျစ်နိုင်ငံတွင် ကျမ်းတော်မြတ် နှင့် အစ္စလာမ်သာသနာတော်၏ အထိမ်းအမှတ်ဖြစ်သည့် အရဗီဘာသာစကားအပြင် တခြားသောဘာသာစကားများဖြင့် ပြောဆိုမှုသည် ဖေကာဟ်ပညာရှင်များ၊ ရုံးသူရုံးသားများ၊ အာဏာပိုင်များ၊ ဈေးသူဈေးသားများ၊ ယုတ်စွအဆုံး မိတ်ဆွေသင်္ဂဟအချင်းချင်း၊ အိမ်သူအိမ်သားအချင်းချင်း၊ မြို့သူမြို့သားအချင်းချင်းတို့၏ အကျင့်တစ်ခုသဖွယ်ဖြစ်နေသည်။ စင်စစ်မှာ ဤလုပ်ရပ်သည် မနှစ်မြို့ဖွယ်ရာပင်ဖြစ်သည်။ အထက်တွင်ဖော်ပြခဲ့သည့် ပုံစံအတိုင်း အရဗ်မဟုတ်သူတို့ကို အတုခိုးကျင့်ကြံနေထိုင်ခြင်းသည် မနှစ်မြို့စရာကိစ္စရပ်ပင်ဖြစ်သည်။

➢ ဤအတွက်ကြောင့် ရှေးဦးမွတ်စ်လင်မ်တို့သည် ရောမစကား ပြောဆိုသုံးစွဲကြသော ဆီးရီးယားနှင့် အီဂျစ်၊ ဖာရစီစကားကို ပြောဆိုသုံးစွဲကြသော အီရတ်နှင့် ခိုရာစာန်၊ ဘရ်ဘရီစကားပြောဆို သုံးစွဲကြသော အနောက်နိုင်ငံ၊ စသည့်နိုင်ငံများ၌ အခြေချနေထိုင်ကြသောအခါ ထိုနိုင်ငံများတွင် နေထိုင်ကြသော မွတ်စ်လင်မ်၊ ကာဖရ်၊ စသဖြင့် လူတန်းစားအသီးသီးအပေါ်သို့ အရဗီစကားလွှမ်းမိုးသွားသည်အထိ ၎င်းတို့ထဲ၌ အရဗီစကားပြောဆိုသုံးစွဲသော ဓလေ့အား မွေးမြူပေးခဲ့သည်။ ဤသို့ဖြင့် ရှေးတစ်ချိန်က ခိုရာစာန်သားတို့သည် အရဗီစကားအား ပြောဆိုခဲ့ကြသော်လည်း နောက်ပိုင်းတွင် အရဗီစကားကို အလေးမထားတော့ဘဲ ဖာရစီစကားကိုသာ ပြောဆိုသုံးစွဲလာကြသည်။ နောက်ဆုံး ၎င်းဘာသာစကား(ဖာရစီစကား)သည် ၎င်းတို့အပေါ်သို့ လွှမ်းမိုးသွားခဲ့ပြီး အရဗီစကားသည် စွန့်ပစ်ခံဘဝသို့ ဆိုက်ရောက်သွားခဲ့လေသည်။

➢ စင်စစ် ဤအပြုအမူသည် နှစ်မြို့ဖွယ်မကောင်းသော အပြုအမူတစ်ရပ်ပင်ဖြစ်သည်။ ကောင်းမြတ်သောနည်းလမ်းမှာ အခြေခံကျောင်းများ၊ အိမ်များ၌ရှိကြသော ကလေးငယ်များပါ ဆည်းယူသင်ယူရလွယ်အောင် အရဗီစကားပြောဆိုသည့် အလေ့အကျင့် မွေးမြူခြင်းပင်ဖြစ်သည်။ တစ်ဆက်တည်းမှာပင် အစ္စလာမ်နှင့် မွတ်စ်လင်မ်တို့၏ အထိမ်းအမှတ်များကို ဖော်ထုတ်ရာလည်းမည်သည်။

ꕤ ꕤ ꕤ

# ဂုဏ်ယူထိုက်သော အရဗီစကားနှင့် အရဗ်မျိုးနွယ်

ရှားဟ် ဝလီယွလ္လာဟ် ဒေဟ်လဝီဟု ကျော်ကြားသော အေမာမ် အဟ်မဒ်ဗင်န် အဗ်ဒွရ်ရဟီးမ်(ﷺ)က (المقالة الوضيئة في النصيحة والوصيّة) ဟူသော စာလွှာလေးတစ်ခု၌ မိန့်ဆိုထားသည်မှာ- ကျွန်တော်တို့၏ ဘိုးဘွား ဘီဘင်တို့သည် အာရေဗျကျွန်းဆွယ်မှ ဤအရပ်ဒေသသို့ ရွှေ့ပြောင်း အခြေချလာရောက်နေထိုင်ခဲ့ကြသော တိုင်းတစ်ပါးသားများ ဖြစ်ကြသည်။ ကျွန်တော်တို့သည် အရဗ်မျိုးနွယ်ဝင်ဖြစ်ခြင်း၊ အရဗီစကား ပြောဆိုခြင်းတို့ဖြင့် ဂုဏ်ယူပါသည်။ အဘယ်ကြောင့်ဆိုသော် အရဗ်မျိုးနွယ်ဝင်ဖြစ်ခြင်းနှင့် အရဗီစကားပြောဆိုခြင်းသည် ကိုယ်တော်မြတ်(ﷺ)နှင့် နီးစပ်စေသောကြောင့်ဖြစ်သည်။ ဤဂုဏ်တော်နှင့် ပတ်သက်ပြီး အလ္လာဟ်(ﷻ)အရှင်မြတ်ကို ကျေးဇူးတင်သည့်အနေဖြင့် ကျွန်တော်တို့သည် ရှေးဦးအရဗ်များဖြစ်သည့် ဆွဟာဗာ(ﷺ) သခင်ကြီးတို့၏ လမ်းစဉ်အတိုင်း ကျင့်ကြံဆောက်တည်ပြီး အရဗ် မဟုတ်သည့် တခြားသောမျိုးနွယ်ဝင်တို့၏ ထုံးတမ်းစဉ်လာများမှ ရှောင်ကြဉ်ရပေမည်။

➢ အေမာမ် ဘဂဝီ(ﷺ)က အဗူအွဆ်မားန် နဟ်ဒီ၏ ဆင့်ပြန်ချက်တစ်ရပ်ကို ထုတ်နုတ်တင်ပြထားသည်မှာ- အာဇာန်ဘိုင်ဂျာန်မှာ ရှိနေခိုက် ကျွန်တော်ထံ ဟဇရသ် အိုမရ်ဗင်န် ခတ္တားဗ်(ﷺ)သခင်၏ စာတစ် စောင် ရောက်လာခဲ့သည်။ ၎င်းစာထဲ၌ ညွှန်ကြားထားသည်မှာ-

“အသင်တို့ သုံးခုသောအရာကို ဆင်မြန်းရမည်။ နှစ်ခုသောအရာအား ရှောင်ကြဉ်ရမည်။ ဆင်မြန်းရမည့်အရာများမှာ- လုံချည်၊ ခြုံထည်၊ ဖိနပ်တို့ဖြစ်သည်။ ရှောင်ကြဉ်ရမည့်အရာများမှာ- ခြေစွပ်၊ ဘောင်းဘီရှည်တို့ဖြစ်သည်။ အသင်တို့ဖခင်ကြီး ဟဇရသ်အိစ်မာအီးလ်(ﷺ) ဝတ်ဆင်တော်မူခဲ့သော ဝတ်စားဆင်ယဉ်ပုံအတိုင်း ဝတ်ဆင်၍ အရဗ်မဟုတ်သောသူတို့၏ ဟန်ပန်အမူအရာတို့နှင့် စည်းစိမ်ယစ်မူးခြင်း တို့မှ ရှောင်ကြဉ်ကြပါ။ ထို့အတူ အသင်တို့ အရဗ်မျိုးနွယ်ဝင်များ အနွေးဓါတ်ရယူသည့် နေရောင်ခြည်ကို လက်မလွှတ်စေကြနှင့်။ မြင်းစီး၊ မြားပစ်လုပ်ငန်းများအား ပြုလုပ်၍ ခက်ခဲကြမ်းတမ်းသော ဘဝကိုမွေးမြူကြပါ။ အချုပ်ဆိုရသော် ကုရ်အာန်၊ ဟဒီးဆ်၏ပညာရပ်များ၌ ပိုင်နိုင်ကျွမ်းကျင်ပြီး အရဗီစာပေအနုပညာနှင့် အရဗီသဒ္ဒါဘာသာရပ်များကို တတ်မြောက်ထားသောသူသည် အလွန်နဖူးစာကောင်းသူပင် ဖြစ်သည်။”

ꕥ ꕥ ꕥ

## အရဗီစာပေနှင့်ပတ်သက်ပြီး လာရှိထားသောသာသာသနာ့ပညာရှင်များ၏ အဆိုအမိန့်များ

အလ္လာမဟ် အိဗ်နို့သိုင်မီယာ (ﷺ) ကမိန့်ဆိုသည်မှာ- “အရဗီဘာသာရပ်သည် ဒီးန်သာသာနာ အနက်မှဖြစ်သည်။ ၎င်းအား သိရှိနား

လည်ရန် အရေးကြီးပေသည်။ အဘယ့်ကြောင့်ဆိုသော် အရေးကြီး တာဝန်တစ်ခုအတွက် လိုအပ်သောအရာတိုင်းကို (သိရှိနားလည်ခြင်း) သည်လည်း အရေးကြီးတာဝန်အဆင့်ဖြစ်သောကြောင့်ပင်။ ထို့ကြောင့် တာဝန်တစ်ခုဖြစ်သည့် ကျမ်းတော်မြတ်ကုရ်အာန်နှင့် ဟဒီးဆ်တော် များအား သိရှိနားလည်ခြင်းသည် အရဗီဘာသာရပ်ကို သိရှိနားလည် ခြင်းအပေါ် မူတည်နေပေသည်။”

➢ ဟဇရသ် အိုမရ် (ﷺ) သခင်မိန့်တော်မူခဲ့သည်မှာ - အသင်တို့ အရဗ် မဟုတ်သူများ၏ ဘာသာစကားအား မသင်ယူကြလေနှင့်။

➢ နောက်ဆင့်ပြန်ချက်တစ်ခု၌လာရှိသည်မှာဟဇရသ်(ﷺ)အိုမရ်သခင် ကဖာရစီစကားပြောဆို၍ သွဝါးဖ်လုပ်နေသောသူတစ်ဦး၏ လက်မောင်း အားဆွဲကိုင်ပြီး“ အသင်တို့ အရဗီစကားပြောဖို့ ကြိုးစားကြပါ။” ဟုမိန့် တော်မူခဲ့သည်။

➢ အလ္လာမဟ် အိဗ်နို့သိုင်မီယာ(ﷺ)သခင်က ထပ်ဆင့်၍ မိန့်တော်မူခဲ့ သည် “ အရဗီစကားကို (ပြောဆိုသည့်) အလေ့အကျင့် မွေးမြူခြင်းသည် လူသား၏အသိဉာဏ်၊စာရိတ္တ၊သာသနာတို့အပေါ်အပြည့်အဝ ထိရောက် မှုရှိသလိုရှေးဦးပုဂ္ဂိုလ်ကြီးများ(ဆွဟာဗဟ်(ﷺ) များနှင့် သာဗေအီ (ﷺ) ကြီးများ)နှင့်တူဆင်စေသည်။အဘယ့်ကြောင့်ဆိုသော် ၎င်းတို့နှင့်တူဆင် ခြင်းသည် စာရိတ္တမွန်များ၊ သာသနာ့အသိတရားများနှင့် အသိဉာဏ်များ တိုးပွားစေသော အကြောင်းခံဖြစ်သည်။

➢ အေမာမ်ရွာဖေအီ(ﷺ)သခင်က မိန့်ဆိုသည်မှာ- အရဗီစာပေကို သင်ယူဆည်းပူးနိုင်စွမ်း ရှိသူတိုင်းအပေါ်၌ အရဗီစကားအား သင်ယူ ဆည်းပူးထိုက်ပေသည်။ အကြောင်းမူ အရဗီစကားသည် ကနဦးဘာသာ စကားတစ်ခုဖြစ်သည့်အလျောက် ချစ်မြတ်နိုးသင့်သောကြောင့်ပင်ဖြစ် သည်။ သို့သော် တခြားဘာသာစကားတို့ကို ပြောဆိုသူများအား ဟရာမ် လုပ်ရပ်ကို ကျူးလွန်သူများဟု မဆိုထိုက်ပေ။

➢ တစ်ဆက်တည်းမှာပင် အေမာမ်ဘိုခါရီ(ﷺ)သခင်ကြီးက မိမိ၏ ဘိုခါရီကျမ်းကြီး၌ အရဗီအပြင် တခြားသောဘာသာစကားများ ပြောဆို ခြင်းသည် မနှစ်မြို့ဖွယ်ရာ ဖြစ်သည်ဟူသော ဒွိဟသံသယကို ပယ်ဖျက် သည့်အနေဖြင့် "ဖာရစီစကားနှင့် အရဗီမဟုတ်သော တခြားသော ဘာသာစကားတို့ကို ပြောဆိုသူ၏အမိန့်၊ "အသင်တို့၏ ဘာသာစကား နှင့် အသွေးအရောင်တို့ ကွဲပြားခြားနားခြင်းသည် ထိုအရှင်မြတ်၏ သက် သေလက္ခဏာတော်များအနက်မှ ဖြစ်သည်။"ဟူသော အာယသ်တော် နှင့် "ငါအရှင်မြတ်သည် နဗီတမန်တော်(ﷺ)တို့အား မိမိမျိုးနွယ်ဝင်များ ၏ ဘာသာစကားဖြင့် စေလွှတ်တော်မူခဲ့သည်"ဟူသော အာယသ်တော် များဖြင့် ခေါင်းစဉ်တည်ခဲ့၏။ အလ္လာဟ်အရှင်မြတ်က ဘာသာစကား အမျိုးမျိုး ကို ဖန်ဆင်းပေးပြီး မိမိ၏ကျေးဇူးပြုမှုကြီးအား ကျမ်းတော် မြတ် ကုရ်အာန်၌ ဖော်ပြထားပေသည်။

➢ "ထိုမှာတစ်ပါးထိုအရှင်မြတ်၏သက်သေလက္ခဏာတော်များ အနက် မှပင် မိုးကောင်းကင်များ နှင့် ပထဝီမြေကို ဖန်ဆင်းတော်မူခြင်းသည်

လည်းကောင်း၊အသင်တို့၏ဘာသာစကားနှင့်အသွေးအရောင်တို့ကွဲပြား ခြားနားခြင်းသည်လည်းကောင်း၊စင်စစ်ဤသည် ပညာရှိသူခမိန် တို့အဖို့ အမှန်ပင် သက်သေလက္ခဏာများသည် ရှိချေသည်။

**(စူရဟ်-၃၀-၊ အာယသ်တော်-၂၂-)**

➢ အထက်ဖော်ပြပါ (အာယသ်တော် အထောက်အထားများ) အား အခြေပြုပြီး အရဗီမဟုတ်သော တခြားဘာသာစကားတစ်ခုခုကို ပြော ဆိုသုံးစွဲခြင်းသည် ပိုင်ကြောင်းသိရသည်။ သို့သော် ဘာသာစကားတစ်ခု သင်ယူလိုသူသည် အရဗီစကားအား (ဦးစားပေး)သင်ယူရမည်သာ ဖြစ် သည်။ အဘယ့်ကြောင့်ဆိုသော် အရဗီ(တတ်မြောက်သူသည်) တခြား သောဘာသာရပ်တို့ကို (တတ်မြောက်သောသူ)ထက်ပို၍ ဂုဏ်ယူထိုက် သောကြောင့်ဖြစ်သည်။

➢ အဗ်ဒွလ္လာဟ်ဗင်န် မိုဘာရက် (ﷺ) သခင်က မိန့်ဆိုသည်မှာ - အရဗီမတတ်မြောက်သောသူ၏ မည်သည့်အသိပညာကိုမျှ လက်ခံ၍မရ ပေ။ ဆက်လက်ပြီးမိန့်တော်မူသည်မှာ- ကျွန်တော်သည် ဟဒီးဆ်ပညာ သင်ယူဆည်းပူးရာ၌ ငွေဒင်္ဂါးလေးထောင်ကို သုံးစွဲခဲ့ပြီး အရဗီ သင်ယူ ဆည်းပူးရာ၌ ငွေဒင်္ဂါးခြောက်သောင်းအား အသုံးပြုခဲ့သည်။ ဟဒီးဆ် ပညာရပ်အတွက် သုံးစွဲခဲ့သလိုမျိုး အရဗီအတွက်လည်း သုံးစွဲခဲ့လျှင် ကောင်းလေစွဟု ပြန်လည်တောင်းတခဲ့သည်။ ထိုအခါ လူတစ်ဦးက အဘယ့်အတွက်ကြောင့်ပါနည်းဟု မေးမြန်းခဲ့ရာ သခင်ကြီးကမိန့်ဆို သည်မှာ-အကြောင်းမူ အရဗီ၌မှားယွင်းခြင်းသည် ကုဖ်ရ်ဘက်သို့ တွန်းပို့

ပေးသောကြောင့် ဖြစ်သည်။ စင်စစ်မှာ ဟဇရသ် အဗ်ဒွလ္လာဟ်ဗင်န် မိုဘာရက်(ﷺ)၏ မိန့်ဆိုချက်သည် မှန်ကန်ပေသည်။ အဘယ့်ကြောင့် ဆိုသော် အရဗီ၌ မှားယွင်းခြင်းသည် ဟဒီးဆ်တော်၌ မှားယွင်းခြင်း ဖြစ်သလို ရှေ့လာမည့် ဟဒီးဆ်တော်၌ ကိုယ်တော်မြတ်(ﷺ)၏ အသိပေး ခြိမ်းခြောက်ခြင်းခံရသောသူများအနက်မှ တစ်ဦးအပါအဝင် ဖြစ်သွားမည်ကို စိုးရိမ်ရသောကြောင့်ဖြစ်သည်။ ၎င်းဟဒီးဆ်တော်မြတ်မှာ - "ငါကိုယ်တော်မြတ် အပေါ်ကြံရွယ်၍ လိမ်လည်လှည့်ဖျားသူသည် ဂျဟန္နမ်၌ နေရာတစ်ခုကို ပြင်ဆင်ထားပါလေ။"

➢ အဗူဇေနာဒ်(ﷺ)က မိမိ၏ဖခင်ထံမှ ဆင့်ပြန်ခဲ့သည်မှာ- "အရှေ့တိုင်း၌ ဒိဋ္ဌိဖြစ်သွားသောသူတို့သည် အရဗီဘာသာရပ်အား နားမလည်သောကြောင့် အများဆုံးဖြစ်သည်။ အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင် တာဝန်ယူထိန်းသိမ်းခဲ့သော ကျမ်းတော်မြတ်ကုရ်အာန်က အရဗီဘာသာစကားဖြင့် ကျရောက်လာခြင်းထက် အရဗီစကား၏ အခြားထွတ်မြတ်မှုမရှိပေ။

➢ ဤသည်နှင့်စပ်လျဉ်း၍ကျမ်းတော်မြတ်ကုရ်အာန်၌လာရှိထားသည်မှာ - " ကေန်စင်စစ် ငါအရှင်မြတ်သည်ပင်လျှင် (ဤ) ဆုံးမဩဝါဒ (တည်းဟူသော ကုရ်အာန်ကျမ်းမြတ်)ကို ချပေးသနားတော် မူခဲ့လေသည်။ ထိုမှတစ်ပါး ကေန်မလွဲ ငါအရှင်မြတ်သည်ပင်လျှင် ယင်းဆုံးမဩဝါဒ ကို ထိန်းသိမ်းစောက်ရှောက်တော်မူမည့် အရှင်မြတ်ဖြစ် တော်မူပေသည်။ **(စူရာဟ်-၁၅-၊ အာယသ်တော်-၉-)**

➢ အလ္လာဟ်အရှင်မြတ်သည် ကျမ်းတော်မြတ်ကုရ်အာန်အား တာဝန်ယူ ထိန်းသိမ်းစောင့်ရှောက်သလို အရဗီစကားကိုလည်း ထိန်းသိမ်းစောင့်ရှောက်မည်သာဖြစ်သည်။ အကြောင်းမူ ကျမ်းတော်မြတ်ကုရ်အာန်သည် အရဗီဘာသာစကားဖြင့် ကျရောက်လာသောကြောင့်ဖြစ်သည်။

➢ (ဘာသာစကားတို့၏ နိယာမတစ်ခုမှာ) ၎င်းဘာသာစကားတို့ အား (ပြောဆိုသုံးစွဲသူများ) ဆိတ်သုဉ်းသွားသောကြောင့်လည်းကောင်း၊ အုပ်ချုပ်သူအစိုးရများ ပြောင်းလဲသွားသောကြောင့်လည်းကောင်း လိုက်၍ ပြောင်းလဲသွားရသည်။ သို့တစေလည်း အရဗီစကားသည် ကမ္ဘာလုံးဆိုင်ရာ ဘာသာစကားတစ်ခုဖြစ်ပြီး ကျမ်းတော်မြတ်ကုရ်အာန် တည်ရှိနေသ၍ ထာဝစဉ်တည်ရှိနေမည့် ဘာသာစကားတစ်ခုဖြစ်သည်။

➢ ယနေ့အနောက်နိုင်ငံများက အရဗီစာပေဖြင့် ပညာ့အမွေနှစ်များ ကိုကျယ်ကျယ်ပြန့်ပြန့် ဖြန့်ချိနေခြင်းသည် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ အရဗီစာပေနှင့်ပတ်သက်ပြီး လက်ခံမှုကိုလည်းကောင်း၊ မိမိကိုယ်တော်တိုင် ၎င်းစာပေအား ထိန်းသိမ်းမည်ဟူသော ကတိတော်ကိုလည်းကောင်း ပြည့်ဝစေတော်မူခြင်းပင်ဖြစ်သည်။ အရဗ်နိုင်ငံများနှင့် မွတ်စ်လင်မ်အများစု နေထိုင်သောနိုင်ငံများသည် ဤပညာ့အမွေနှစ်များကို ဖြန့်ချိခဲ့လျှင် ကောင်းလေစွ။

➢ စာပေအနုပညာရှင်ကြီး အလ္လာမာဟ် ယူစွဖ် ဗင်န်နူရီ(ﷺ) သခင်ကြီးက ဟိဂျ်ရီ (၁၃၈၆)ခုနှစ်၊ မုဟာရာမ်လထုတ် (ဘိုင်ယေ့နားသ်)အမည်

ရှိ အုရ်ဒူမဂ္ဂဇင်းတစ်ခု၌ “အရဗီစကား၏ ထွတ်မြတ်မှု၊ အရေးကြီးပုံ”နှင့် ပတ်သက်ပြီး တန်ဖိုးမဖြတ်နိုင်သော စာလွှာလေးတစ်စောင်အား ရေး သားဖော်ပြထားသည်။ ၎င်းမှာ-“အစ္စလာမ်သာသနာနှင့် အရဗီဘာသာ စကားအကြား ခိုင်မာသော ဆက်နွှယ်မှုတို့သည် အကျယ်တဝင့်ရှင်းပြ စရာ မလိုလောက်အောင်ပင်ဖြစ်သည်။ အကြောင်းမူ ကျမ်းတော်မြတ် ကုရ်အာန်နှင့် ဟဒီးဆ်တော်များ၌ လာရှိသော အစ္စလာမ်၏ပြဋ္ဌာန်းချက် များ၊ သင်ကြားလမ်းညွှန်မှုများနှင့် သောင်ဟီးဒ်တရား၏ အကြီးမားဆုံး ပြယုဂ်တစ်ခုဖြစ်သည့် ကမ္ဗာနှင့်အဝှမ်းက မွတ်စ်လင်မ်ထုတစ်ရပ်လုံး နေ့စဉ်ဝတ်ပြုနေကြသော နမားဇ်ငါးကြိမ်တို့သည် အရဗီဘာသာနှင့် ဖြစ်သလို မွတ်စ်လင်မ်ပတ်ဝန်းကျင်တစ်ခုလုံးကို ဟောကြားသော ဂျုမ့်အဟ်မိန့်ခွန့်များနှင့် အီးဒ်မိန့်ခွန်းများသည်လည်း အရဗီဘာသာ စကားနှင့်သာဖြစ်သည်။

➢ ထို့အတူ ကိုယ်တော်မြတ်(ﷺ)က အလ္လာဟ်အရှင်မြတ်နှင့် အဆက် အသွယ် ခိုင်မြဲစေရန် မိမိအွမ္မသ်သားများကို သင်ကြားပေးခဲ့သော နံနက်၊ ညနေ၊အချိန်အခါတိုင်းတွင်ဖတ်ရွတ်ရသည့်ဇိကိရ်၊ဒိုအာတော်များ သည် လည်းအရဗီစကားနှင့်သာလာရှိထားသောအတွက် ကြောင့်ဖြစ်သည်။

➢ တဖန် အင်မတန်ထွတ်မြတ်ပြီး အရှင်မြတ်၏ နူရ်တို့နှင့်အတိပြီး သော မက္ကာဟ်ရွှေမြို့တော်နှင့် အလွန်သန့်ပြန့်စင်ကြယ်ပြီး ကိုယ်တော် မြတ်(ﷺ) ရွှေ့ပြောင်းနေထိုင်ခဲ့ရာ အရပ်ဒေသ မဒီနာရွှေမြို့တော်သည် အာရေးဗျကျွန်းစွယ်၌ပင် တည်ရှိနေသည်။ ထို့အတူ ၎င်းအရပ်ဒေသ

နှစ်ခု၌ မှီတင်းနေထိုင်ကြသောသူများသည် အရဗီစကားကိုသာ ပြောဆို သုံးစွဲကြသည်။

➢ မြင့်မြတ်တော်မူသော မက္ကာဟ်ရွှေမြို့တော်သည် (အရဗ်မျိုး နွယ်ဝင်များဖြစ်ကြသော) ဗနူကဟ်သွာန်တို့၏ မှီတင်းနေထိုင်ရာ ဌာနတစ်ခု ဖြစ်ခဲ့သည်။၎င်းရွှေမြို့တော်နှစ်ခု၌(မှီတင်းနေထိုင်ကြသူများ)၏ဘာသာ စကားနှင့် ယဉ်ကျေးမှုသည် အရဗီစကားနှင့် အရဗ်ယဉ်ကျေးမှု ဖြစ်သလို ဗနူအဒ်နာန်နှင့် ဗနူကဟ်သွာန်တို့၏ စာပေနှင့် သမိုင်းအမွေအနှစ်များ သည်လည်းအရဗီစာပေနှင့်သာဖြစ်သည်။ ထို့အတူအစ္စလာမ်၏ဖိတ်ခေါ် မှုနှင့်ကျမ်းတော်မြတ်ကုရ်အာန်သည်ဦးစွာပထမအာရေးဗျ ကျွန်းဆွယ်၌ မှီတင်းနေထိုင်ကြသောသူများထံသို့ (ကျရောက်လာခဲ့သည်။)

➢ အီရတ်နှင့် ဆီးရီးယားနိုင်ငံတို့သည် အာရေးဗျကျွန်းဆွယ်အပြင် ၌ အရဗီစာပေနှင့် အစ္စလာမ့်ယဉ်ကျေးမှု၏ ဌာနချုပ်ကြီးနှစ်ခုဖြစ်သည်။ ထို့အတူ အီဂျစ်၊ လစ်ဗျား၊ ဆူဒါန်၊ အနောက်အာဖရိက၊ အလ်ဂျဇာအိရ်၊ တူနီးရှား၊ မော်ရိုကို စသည့်နိုင်ငံများ၌ နေထိုင်ကြသူများသည် အရဗီ စကားကို ပြောဆိုသုံးစွဲကြသည်။ မြောက်အာဖရိက၌ နေထိုင်သူအများ စုသည် အရဗီအစစ်ကိုလည်းကောင်း၊ ပြင်ဆင်ထားသော မူကွဲအရဗီကို လည်းကောင်း ပြောဆိုသုံးစွဲကြသည်။

➢ အလ္လာဟ်အရှင်မြတ်လမ်းတော်၌ စစ်ဆင်နွှဲရန် ထွက်ခွာလာခဲ့ကြ သော ဆွဟာဗာ(ﷺ) ကြီးများနှင့် ၎င်းတို့၏ နောက်လိုက်သားများဖြစ် သည့် ရှေးဦးအရဗ်မွတ်စ်လင်မ်တို့သည် စင့်န်ဒ်၊ အိန္ဒိယ၊ အာဖဂန်၊

ဘိုခါရာ၊ စပိန် အစရှိသော ကမ္ဘာနိုင်ငံအသီးသီးသို့ ရောက်ရှိခဲ့ကြသည်။ ထို့နောက် ၎င်းဒေသအသီးသီး၌ အခြေချနေထိုင်ခဲ့ရာ အရဗီဘာသာ စကားသည်လည်း ၎င်းတို့နှင့်အတူ ရောက်ရှိသွားခဲ့သည်။ ထိုနိုင်ငံများ၌ (နေထိုင်ကြသော) မွတ်စ်လင်မ်များ၏ သာသနာ့အမွေအနှစ်များသည် အရဗီစာပေဖြင့် (ရေးသားပြုစုထားသည့် အတွက်ကြောင့်) အရဗီသည် ၎င်းနိုင်ငံများ၌ ယဉ်ကျေးမှု၏ စာပေတစ်ခုဖြစ်သွားသည်။

➢ ဤအတွက်ကြောင့် အစ္စလာမ့်နိုင်ငံများနှင့် အစ္စလာမ်မဟုတ်သည့် နိုင်ငံများ၌ အစ္စလာမ့်ပညာရပ်အသီးသီးတွင် ကျွမ်းကျင်ထူးချွန်သော ပြိုင်စံရှား သာသနာ့ပညာရှင်ကြီးများ ပေါ်ထွန်းခဲ့သည်။ ၎င်းပညာ ရှင်ကြီးများသည်မိမိတို့၏ကြိုးပမ်းအားထုတ်မှုတို့ဖြင့်ပညာရပ်အသီးသီး အားရေးသားပြုစုနိုင်ခဲ့သည်။ ၎င်းပညာရပ်တို့၌ အရဗီ ဘာသာဗေဒဆိုင် ရာ ပညာရပ်များပါဝင်သလို အစ္စလာမ့်ပညာရပ်များနှင့် အခြေခံသင် ထောက်ကူ ပညာရပ်များလည်း ပါဝင်သည်။

➢ အရဗီဘာသာဗေဒဆိုင်ရာ ပညာရပ်များမှာ သဒ္ဒါပညာရပ်၊ စကားလုံးရုပ်သွင်ပညာရပ်၊ အလင်္ကာပညာရပ်များ၊ အဘိဓာန်များ၊ လက်ရေးလှပညာ၊ ကဗျာပညာရပ်များ၊ ရသ စကားပြေပညာရပ်တို့ဖြစ် ကြသည်။

➢ အစ္စလာမ့်ပညာရပ်များမှာ-သတ်ဖ်စီးရ် (ကုရ်အာန်အကျယ်ဖွင့်) နှင့် ၎င်း၏ဥပဒေပညာရပ်များ၊ ဟဒီးဆ်နှင့် ၎င်း၏ဥပဒေပညာရပ်များ၊

ဖိကဟ်(မြေသတ်)နှင့် ဖိကဟ်သိပ္ပံပညာရပ်များ၊ အစ္စလာမ့်(အကီဒါ) ယုံကြည်ချက်ပိုင်းဆိုင်ရာ ပညာရပ်များဖြစ်ကြသည်။

➢ အခြေခံသင်ထောက်ကူ ပညာရပ်များမှာ- ဒသနိက၊ နက္ခတ္တဗေဒနှင့် သင်္ချာဘာသာရပ်တို့ ဖြစ်ကြသည်။ ထို့အတူ အရဗီစာပေပညာရှင်များသည် အရဗီ၏မြေစစ်သဘောတရားများ၊ အတိမ်အနက်များ၊ ထူးခြားချက်များ၊ ပြောဆိုသုံးနှုန်းသည့် ဥပဒေများ၊ စသည်ဖြင့် တစ်ကမ္ဘာလုံးရှိ အခြား ဘာသာစကား၊ စာပေတို့နှင့် မတူကွဲပြားသော အရဗီ၏ထူးခြားဝိသေသများကို ရေးသားပြုစုခဲ့ကြသည်။ စင်စစ် အရဗီ စာပေသည် အစ္စလာမ့် ပညာရပ်များ၏စာပေ၊ အစ္စလာမ့်သမိုင်း၏စာပေ၊ ဝဟီ (ဗျာဒိတ်တော်)၏ စာပေ၊ ဟဒီးဆ်တော်များ၏ စာပေနှင့် အစ္စလာမ့်နိုင်ငံများ၏ ရုံးသုံးစာပေတစ်ခု ဖြစ်သည်။ ဤအတွက်ကြောင့် ဦးနှောက် မပြည့်မှီသူသာလျှင် အရဗီစာပေ၏ အရေးကြီးပုံကို ငြင်းပယ်မည်သာ ဖြစ်သည်။

➢ အလ္လာဟ်အရှင်မြတ်သည် မိမိအလိုတော်ဖြင့် အာရေဗျ ကျွန်းဆွယ် အတွင်းအပြင်၌ရှိသော သဲကန္တာရတို့မှရေနံနှင့် အခြားသော သယံဇာတများ ပေါ်ထွန်းစေခဲ့ပြီး ကောင်းကင်ကြီးကိုအမိုး၊ သဲတောင်ပြင်များ အား အခင်းအကျင်းအဖြင့် ပြုလုပ်ပြီး နေထိုင်ကြသော အရဗ်မျိုးနွယ်ဝင်များ အား ကျိကျိတက်ချမ်းသာစေ၍ မြင့်မားသော အဆင့်အတန်းများ ကို ချီးမြှင့်တော်မူခဲ့သည်။

➢ ရုရှား၊ အမေရိကန်၊ ပြင်သစ်၊ ဗြိတိသျှ စသည့်အစွလာမ့်ရန်သူ တို့၏ နိုင်ငံများသည်ပင်လျှင် ၎င်း(အရဗ်တို့)အား ဖော်လံဖားလုပ်သော အနေဖြင့် အရဗီစကားကိုသင်ယူကြပြီး နိုင်ငံရေးအကျိုးအမြတ်များရရှိ စေရန် အရဗ်တို့နှင့်စကားပြောဆိုရာ၌ အရဗီစကားဖြင့်သာ ပြောဆိုကြသည်။ ထို့အတူ ဥရောပနိုင်ငံများသည်လည်း အရဗ်တို့နှင့် ဆက်ဆံရေး ရရှိစေရန် အရဗီစကားသင်ကြားပေးသော ဌာနများဖွင့်လှစ်ခဲ့ကြသည်။

➢ ကူဝိတ်၏သဲကန္တာရမှ (ထွက်ပေါ်လာသောရေနံနှင့်သယံဇာတများ) ကြောင့် ဗြိတိသျှသည် သာယာဝပြောပြီး စည်းစိမ်အမျိုးမျိုး၌ ယစ်မူးနေသည်။ အကယ်၍ ကူဝိတ်၏ စည်းစိမ်ဥစ္စာတို့ကို ဗြိတိသျှ၏ဘဏ်များမှ နုတ်ယူလိုက်ပါက ဗြိတိသျှသည် ချွတ်ခြုံကျသွား နိုင်ပါသည်။ အတိတ်၌ အရဗ်သဲကန္တာရများမှ နာမ်ပိုင်းဆိုင်ရာ တရားဒေသနာတော်၏ စမ်းချောင်းများ စီးဆင်းခဲ့သကဲ့သို့ ယနေ့တွင်လည်း ရုပ်ပိုင်းဆိုင်ရာ ကောင်းခြင်းများ၊ ကြွယ်ဝချမ်းသာခြင်းများ၏ စမ်းရေများ ပန်းထွက် စီးဆင်းလျက်ပင် ရှိပါသည်။

➢ ဤရုပ်ပိုင်းဆိုင်ရာ၊ နာမ်ပိုင်းဆိုင်ရာ အကြောင်းခံများကြောင့် အရဗီစာပေသည် ကမ္ဘာက အလေးထား အာရုံပြုဖွယ်ရာ ဘာသာရပ် တစ်ခုဖြစ်သွားသည်။

# အရဗီစာပေ၏ အရေးကြီးပုံ

အလ္လာဟ်အရှင်မြတ်က အရဗီစာပေကို ကိုယ်တော်မြတ်(ﷺ) ထံတော်ပါးသို့ ချပေးသော ကျမ်းတော်မြတ်ကုရ်အာန်၏ စာပေအဖြစ်လည်းကောင်း၊ ကိုယ်တော်မြတ် (ﷺ) ၏ ဩဝါဒတော်များဖြစ်သည့် ဟဒီးဆ်တော်များ၏ စာပေအဖြစ်လည်းကောင်း၊ အစ္စလာမ်နှင့် ရှေးဦး မွတ်စ်လင်မ်တို့၏ ဘာသာစကားအဖြစ်လည်းကောင်း၊ မိမိကိုယ်တိုင် ဖိတ်ခေါ်သည့် ဘာသာစကားအဖြစ်လည်းကောင်း ရွေးချယ်တော်မူခဲ့ ခြင်းဖြင့် ၎င်းစာပေအား မည်မျှထွတ်မြတ်မှုများ၊ အလေးပေးမှုများ ချီးမြှင့်ထားသည်ကို (မှန်းဆ၍မရနိုင်အောင်ပင်)ဖြစ်သည်။ ထို့အပြင် အလ္လာဟ်အရှင်မြတ်သည် မိမိသာသနာအား အရဗီစာပေကို မြင့်မား သောအဆင့် အတန်းပေး၍ အထောက်အပံ့ပြုစေသည်။

➢ ထို့အတူအရဗီစာပေအား အေဗာဒသ်ဝတ်ပြုရာ၌ လည်းကောင်း၊ ရှရီအသ်ပညတ်တော်များ ပြဋ္ဌာန်းရာ၌လည်းကောင်း၊ တစ်ခုတည်းသော အကြောင်းခံလည်း ဖြစ်စေသည်။ ပမာဆိုရသော် သာသနာ၏ မဏ္ဍိုင် တစ်ခုဖြစ်သည့် နမားဇ်ဝတ်ပြုမှုသည် ကျမ်းတော်မြတ်ကုရ်အာန်၏ စူရာဟ်တစ်ပုဒ်အား ရွတ်ဆိုမှသာလျှင် ပိုင်မည်သာဖြစ်သည်။ ဤအချက်ကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်က အရဗီ စာပေကို မည်မျှအလေးထား အာရုံပြုပြီး ထွတ်မြတ်မှုချီးမြှင့်ထား ကြောင်း ရှုမြင်နိုင်ပါသည်။

➢ အလ္လာဟ်အရှင်မြတ်၏ အလေးပေး ဂရုစိုက်မှုနှင့် ကျမ်းတော်မြတ်ကုရ်အာန်သာ မရှိခဲ့ပါက အရဗီစာပေသည် အချိန်အတန်ကြာကတည်းက ထောင်ပေါင်းများစွာသော ဘာသာစကားများ ကဲ့သို့ ပျောက်ဆုံးပျောက်ကွယ်သွားမည်သာဖြစ်သည်။ထို့အတူကျမ်းတော်မြတ်ကုရ်အာန်၏စာပေ၊ ဟဒီးဆ်တော်များ၏စာပေ၊ အစ္စလာမ်နှင့် မွတ်စ်လင်မ်တို့၏စာပေသည် အရဗီစာပေဖြစ်နေခြင်းက ၎င်းစာပေ၏ ထွတ်မြတ်မှုတွင် သံသယဝင်ဖွယ်ရာမရှိပေ။

➢ ဤအတွက်ကြောင့် ရှေးယခင်ပုဂ္ဂိုလ်ကြီးများသည် အရဗီစာပေကိုလိုလားတက်မက်မှုအပြည့်နှင့် (လေ့လာဆည်းပူးခဲ့သည်။) အရဗီစာပေနှင့်ပတ်သက်ပြီး လာရှိသော ဆင့်ပြန်ချက်များ ၊ စနစ်ကျသော ဥပဒေသများ၊ ပြည့်စုံကုံလုံသော စကားလုံးများ နှင့် အထောက်အထားများ၊ ခိုင်မာကျစ်လျစ်သောဝါကျများနှင့်အနက်အဓိပ္ပါယ်များ၊ရသ အစွမ်းများ၊ စသည့်ခိုင်မာသောအကာအရံများဖြင့် ခြံရံထားခြင်းသည် မည်သည့် ဘာသာစကား၊ စာပေတို့တွင်မျှ တွေ့ရမည်မဟုတ်ပေ။

➢ စင်စစ် အရဗီစာပေသည် အစဉ်အမြဲ ဖွံ့ဖြိုးတိုးတက်နေခြင်းမှာ အစ္စလာမ်၏ ကောင်းခြင်းတရားများအနက်မှ တစ်ခုဖြစ်သည်။ ထို့အတူ အစ္စလာမ်သာသနာတော်နှင့် ကျမ်းတော်မြတ်ကုရ်အာန်သည် မိမိတို့၏ မိုအ်ဂျေဇာများဖြင့် အရဗီစာပေအပေါ် လွှမ်းခြုံထားပေသည်။ အစ္စလာမ်သာသနာတော်သည် နောက်ဆုံးသာသနာဖြစ်သည်။ ကျမ်းတော်မြတ်ကုရ်အာန်သည် နံနက်၊ ညနေ ရွတ်ဖတ်သရဇ္ဈာယ်ရသော မုအ်ဂျေဇာ

ကျမ်းဂန်ကြီးတစ်ခုဖြစ်သည်။ ၎င်းကျမ်းဂန်ကြီး၏ ကောင်းချီးမင်္ဂလာ အဖြာဖြာနှင့် ဒီးန်သာသနာ၏ ထွတ်မြတ်မှုများသည် ၎င်းစာပေအပေါ်၌ ဖုံးလွှမ်းနေသည်။ ဤကျမ်းတော်မြတ် (ရွတ်ဖတ်သံအား ကြားနာသူ တိုင်းသည်) နားလည်ကြသည်ဖြစ်စေ၊ နားမလည်ကြသည်ဖြစ်စေ၊ သာယာကြည်နူးမှုကို ခံစားကြရသည်။ ဤသည်အထက် ကောင်းကင်မှ စိတ်သာယာအေးချမ်းမှုကို ပေးစွမ်းသော မုအ်ဂျေဇာကြီးတစ်ခုဖြစ် ကြောင်း အကြွင်းမဲ့ယုံကြည်စရာပင်။

➢ ဖျက်လိုဖျက်ဆီး လုပ်သူတို့၏လက်မှ ထိန်းသိမ်းခြင်းခံရသော အလ္လာဟ်အရှင်မြတ်၏ တာဝန်ယူထိန်းသိမ်းခြင်းခံရသည့် ကျမ်းတော် မြတ်ကုရ်အာန် တည်ရှိနေသ၍ အရဗီစာပေသည် အစဉ်အမြဲရှင်သန် ဖွံ့ဖြိုးနေပါမည်။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူသည်မှာ- “ဧကန် စင်စစ် ငါအရှင်မြတ်သည်ပင်လျှင် (ဤ)ဆုံးမဩဝါဒ(တည်းဟူသော ကုရ်အာန်ကျမ်းတော်မြတ်)ကို ချပေးသနားတော်မူခဲ့လေသည်။ ထိုမှ တစ်ပါး ဧကန်မလွဲ ငါအရှင်မြတ်သည်ပင်လျှင် ယင်းဆုံးမဩဝါဒကို ထိန်းသိမ်းစောက်ရှောက်တော်မူမည့် အရှင်မြတ်ဖြစ်တော်မူပေသည်။

**(စူရာဟ်-၁၅-၊ အာယသ်တော်-၉-)**

➢ ထို့ကြောင့် အရဗီစာပေအား ကျွမ်းကျင်ပိုင်နိုင်စွာဖြင့် သင်ယူ ဆည်းပူခြင်း၊ အရဗီစာပေပြန့်ချီရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးတို့တွင် ကြိုးပမ်းဆောင်ရွက်ခြင်း၊ အရဗီစာပေ၏ ပင်ကိုယ်လက္ခဏာများကို ထိန်းသိမ်းခြင်း၊ အရဗီစာပေအား အလေးအနက်ထားခြင်း စသည်တို့

သည် အေဗာဒသ်စာရင်းဝင်၏။ ထို့အတူ အရဗီစာပေကို အလေးမထားခြင်း၊ ဥပေက္ခာပြုခြင်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့် ကိုယ်တော်မြတ် (ﷺ)အား ခေယာနသ်(ဖောက်လွှဲ ဖောက်ပြန်)လုပ်ခြင်း၊ လူသားများနှင့် ကုရ်အာန်၊ ဟဒီးဆ်ကြားရှိ အဆက်အသွယ်ကို ဖြတ်တောက်ပစ်ခြင်း၊ စသည့်ပြစ်မှုများထိုက်ပေသည်။

➢ ကျွန်တော်တို့သည် အရဗီဘာသာစကားအား နားထောင်သည့် အခါတိုင်း စိတ်ကြည်နူးသွားသည်အထိ တက်မက်မှုပြည့်ဝစွာဖြင့် ထဲထဲဝင်ဝင်သင်ယူဆည်းပူး၍ နားလည်သဘောပေါက်မှသာလျှင်၊ ဒီးန် သာသနာတော်နှင့် ကျမ်းတော်မြတ်ကုရ်အာန်၏ ကြီးမြတ်မှု၊ ဟဒီးဆ်တော်များ၏ ချိုမြမှုတို့ကို ခံစားနိုင်မည်ဖြစ်သည်။ အရဗီစာပေကို ကျွမ်းကျင်ပိုင်နိုင်စွာ တက်မြောက်ရန်မှာ ပြည့်ဝသောခံစားချက်များ၊ လိုလားတက်မက်စိတ်များ၊ ခိုင်မာသောသန္နိဋ္ဌာန်များဖြင့် သင်ယူဆည်းပူးမှသာလျှင် ရရှိနိုင်ပေသည်။ ထိုသို့မဟုတ်ပါက အရဗ်ပတ်ဝန်းကျင်နှင့် ၎င်းတို့အကြားနေထိုင်လျှင်လည်း အရဗီစာပေကို ကျွမ်းကျင် တက်မြောက်မည်မဟုတ်ပါ။

➢ ဤနည်းအတိုင်းပင် အရဗီရသစာအုပ်၊ စာပေများကိုလေ့လာ ဖတ်ရှုပြီး ကျွမ်းကျင်ပိုင်နိုင်သော စာရေးဆရာများ၊ တရားဟောဆရာ များဖြစ်အောင် ကောင်းမွန်စွာလေ့ကျင့်ရမည်။ ကြိမ်ဖန်များစွာ လေ့လာ ဖတ်ရှုခြင်း၊ လေ့ကျင့်ခြင်းအားဖြင့် ပြောဆိုရာ၌ နှုတ်လျှာသွက်လက် လာပြီး အရဗီပညာရပ် အသီးသီးတို့အား ကျွမ်းကျင်ပိုင်နိုင်လာလိမ့်မည်။

➢ စစ်မှန်သော ကြိုးပမ်းအားထုတ်မှုတို့ဖြင့် ရည်မှန်းချက် ပန်းတိုင်များ နှင့် ကောင်းမြတ်သော ရလဒ်အသီးသီးများကို ဆွတ်ခူးရယူနိုင်မည်။ မျှော်လင့်ချက်များအား လက်တွေ့ကြိုးပမ်းဆောင်ရွက်ချက်များအဖြစ် ပြောင်းလဲမှသာလျှင် အကျိုးဖြစ်ထွန်းပေမည်။

➢ ထို့ကြောင့်အချိန်များကိုအရဗီစာအုပ်စာပေများအားလေ့လာဖတ်ရှုမှုတို့၌သုံးစွဲရမည်။ နေ့စဉ်နေတိုင်း မိတ်ဆွေသင်္ဂဟာများ နှင့် အရဗီစကား ပြောဆိုလေ့ကျင့်နေရမည်။ စတင်ပြောဆိုရာ၌ အခက် အခဲများ ကြုံရပါမည်။ သို့သော် ပြောဆိုလေ့ကျင့်ပါများလာလျှင် ၎င်း အခက်အခဲများကို ကျော်လွှားနိုင်ပါလိမ့်မည်။

➢ အရဗီစာပေနှင့်ခိုင်မာသောအဆက်အသွယ်များကို ဖန်တီးပေးသည့် အရဗီစာပေဟောပြောပွဲများ၊စာတမ်းဖတ်ပွဲများသည်ကောင်းမြတ်သော အခမ်းအနားများဖြစ်ကြသည်။ ၎င်းအခမ်းအနားများတွင် မိမိတို့၏ အတွေး အခေါ် ၊ အယူ အဆ များအား ရေးသားချက်များဖြင့်တစ်မျိုး၊ ဟောပြောချက်များဖြင့်တစ်ဖုံ၊ အသီးသီးထုတ်ဖော် တင်ပြကြသည်။ ထို့ကြောင့် စိတ်ပါဝင်စားမှု အပြည့်ဖြင့် ၎င်းအခမ်းအနားများအား တက်ရောက်ပါဝင်ရပါမည်။

ʘϕ ʘϕ ʘϕ

أسأل الله تبارك وتعالى أن ينفعَ الناس جميعًا بهذه الرّسالة ويجعلَها ذخرًا ليومٍ لاريبَ فيه ويقْبلَها قبولاً حسنًا

تمّت بحمد الله تبارك وتعالى في ....... / ........ / .........م


ပြန်ဆိုရေးသားသူ
မောင်လာနာမိုဟမ္မဒ်ဇဖရ် ( အလ်ကောင်စရီ )
မြစ်ငယ်မြို့ - မန္တလေးတိုင်း
ဖုန်းနံပါတ် ☎ ၀၉၆၉၅၉၇၀၇၈၆





إِنَّآ أَنزَلۡنَٰهُ قُرۡءَٰنًا عَرَبِيّٗا لَّعَلَّكُمۡ تَعۡقِلُونَ

ဧကန်မလွဲ ငါအရှင်မြတ်သည်
ယင်းကျမ်းဂန်ကိုအသင်တို့နားလည်အံ့သောငှာ
(စကားအဖွဲ့အနွဲ့အသုံးအနှုန်းအလွန်ကောင်းမွန်သော)
ကုရ်အာန်ကျမ်းတော်မြတ်အဖြစ်
အရဗီဘာသာစာပေဖြင့် ချပေးသနားတော်မူခဲ့၏။

(ကုရ်အာန် ၁၂း၂)

